**SHWE MAWLAMYINE BEVERAGE ENTERPRISE CO., LTD.**

Room (A-4), No. 295, Myoma Appartment Myoma Kyaung St., Dagon Township, Yangon.

Tel : 95-1-4411198

## လုပ်ငန်းဆောင်ရွက်လည်ပတ်မည့်ကာလအားဝန်ခံကတိပြုခြင်း

ကျွန်တော်တို့၏ ရွှေမော်လမြိုင်အဖျော်ယမကာလုပ်ငန်း ကုမ္ပဏီလီမိတက် (**Shwe Mawlamyine Beverage Enterprise Co., Ltd.**) သည် စက်မှုဝန်ကြီးဌာနပိုင် မွန်ပြည်နယ်ဒေသကြီး၊ မော် လမြိုင်မြို့၊ နတ်ကျွန်းရပ်၊ မုပွန်ရပ်ကွက် ရှိစက်ရုံနှင့်မြေ(၆. ၆၉၄)နှင့် ကွင်းရပ်ကွက်၊ဇင်ယော်လမ်း၊ အမှတ် (၁၈) ရှိ ဝန်ထမ်းအိမ်ရာမြေ (၄. ၇၇၄) ဧကအပါအဝင် စုစုပေါင်းမြေ (၁၁. ၄၆၈) ဧကနှင့်ယင်းမြေ ပေါ်ရှိစက်ရုံနှင့် ဝန်ထမ်း အိမ်ရာကို B.O.T စနစ် ဖြင့်ကနဦး(၅၀)နှစ်နှင့်နောက်ထပ်(၁၀)နှစ်(၂)ကြိမ်ငှားရမ်း ၍လုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပြီးအဆိုပြုလုပ်ငန်းကိုမြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် လုပ်ငန်းဆောင်ရွက်မည် ဖြစ်ပါသည်။

အဆိုပြုလုပ်ငန်းအားမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်ရရှိသည့်နေ့မှအနည်းဆုံး(၅၀) နှစ်မပျက်မကွက်လည်ပတ်ဆောင်ရွက်မည်ဖြစ်ပါကြောင်းကတိပြုပါသည်။

လေးစားစွာဖြင့်

ဦးဇော်ဝင်း

မန်နေဂျင်းဒါရိုက်တာ

Shwe Mawlamyine Beverage Enterprise Co., Ltd.

**SHWE MAWLAMYINE BEVERAGE ENTERPRISE CO., LTD.**

Room (A-4), No. 295, Myoma Appartment Myoma Kyaung St., Dagon Township, Yangon.

Tel : 95-1-4411198

<u>လျှပ်စစ်ဓါတ်အားသုံးစွဲခြင်းနှင့်စပ်လျှင်း၍ဝန်ခံကတိပြုခြင်း</u>

ကျွန်တော်တို့၏ ရွှေမော်လမြိုင်အဖျော်ယမကာလုပ်ငန်း ကုမ္ပဏီလီမိတက် (**Shwe Mawlamyine Beverage Enterprise Co., Ltd.**) သည် စက်မှုဝန်ကြီးဌာနပိုင် မွန်ပြည်နယ်ဒေသကြီး၊ မော် လမြိုင်မြို့၊ နတ်ကျွန်းရပ်၊ မုပွန်ရပ်ကွက် ရှိစက်ရုံနှင့်မြေ(၆. ၆၉၄)နှင့် ကွင်းရပ်ကွက်၊ဇင်ယော်လမ်း၊ အမှတ် (၁၈) ရှိ ဝန်ထမ်းအိမ်ရာမြေ (၄. ၇၇၄) ဧကအပါအဝင် စုစုပေါင်းမြေ (၁၁. ၄၆၈) ဧကနှင့်ယင်းမြေ ပေါ်ရှိစက်ရုံနှင့် ဝန်ထမ်း အိမ်ရာကို B.O.T စနစ် ဖြင့်ကနဦး(၅၀)နှစ်နှင့်နောက်ထပ်(၁၀)နှစ်(၂)ကြိမ်ငှားရမ်း ၍လုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပြီးအဆိုပြုလုပ်ငန်းကိုမြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် လုပ်ငန်းဆောင်ရွက်မည် ဖြစ်ပါသည်။

အဆိုပြုလုပ်ငန်းအတွက်လို အပ်သောလျှပ်စစ်ဓါတ်အားကိုမဟာဓါတ်အားလိုင်းမှရယူ ဆောင်ရွက်သွားမည်ဖြစ်ပြီးမရရှိသည့်အချိန်တွင် ကိုယ်ပိုင်မီးစက် (Generator- 300KVA) ကိုအသုံးပြုဆောင် ရွက်သွားမည်ဖြစ်ကြောင်းကတိပြုပါသည်။

လေးစားစွာဖြင့်

ဦးဇော်ဝင်း

မန်နေဂျင်းဒါရိုက်တာ

Shwe Mawlamyine Beverage

Enterprise Co., Ltd.

**SHWE MAWLAMYINE BEVERAGE ENTERPRISE CO., LTD.**

Room (A-4), No. 295, Myoma Appartment Myoma Kyaung St., Dagon Township, Yangon.
Tel : 95-1-4411198

<u>ဝန်ထမ်းများ၏ဝင်ငွေခွန်ပေးဆောင်ရေးနှင့်စပ်လျဉ်း၍ဝန်ခံကတိပြုခြင်း</u>

ကျွန်တော်တို့၏ ရွှေမော်လမြိုင်အဖျော်ယမကာလုပ်ငန်း ကုမ္ပဏီလီမိတက် (**Shwe Mawlamyine Beverage Enterprise Co., Ltd.**) သည် စက်မှုဝန်ကြီးဌာနပိုင် မွန်ပြည်နယ်ဒေသကြီး၊ မော် လမြိုင်မြို့၊ နတ်ကျွန်းရပ်၊ မုပွန်ရပ်ကွက် ရှိစက်ရုံနှင့်မြေ(၆. ၆၉၄)နှင့် ကွင်းရပ်ကွက်၊ဇင်ယော်လမ်း၊ အမှတ် (၁၈) ရှိ ဝန်ထမ်းအိမ်ရာမြေ (၄. ၇၇၄) ဧကအပါအဝင် စုစုပေါင်းမြေ (၁၁. ၄၆၈) ဧကနှင့်ယင်းမြေ ပေါ်ရှိစက်ရုံနှင့် ဝန်ထမ်း အိမ်ရာကို B.O.T စနစ် ဖြင့်ကနဦး(၅၀)နှစ်နှင့်နောက်ထပ်(၁၀)နှစ်(၂)ကြိမ်ငှားရမ်း ၍လုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပြီးအဆိုပြုလုပ်ငန်းကိုမြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် လုပ်ငန်းဆောင်ရွက်မည် ဖြစ်ပါသည်။

မိမိတို့ကုမ္ပဏီဝန်ထမ်းများ၏လစာငွေ(၁)နှစ်လျှင်ကျပ်(၂,၀၀၀,၀၀၀/-)နှင့်အထက်ရရှိသောဝန်ထမ်း များ၏ဝင်ငွေခွန်ကိုသတ်မှတ်ထားသောနှုန်းထားများအတိုင်း ကုမ္ပဏီမှတာဝန်ယူပေးဆောင် သွားမည်ဖြစ် ကြောင်းဝန်ခံကတိပြုပါသည်၊

လေးစားစွာဖြင့်

ဦးဇော်ဝင်း

မန်နေဂျင်းဒါရိုက်တာ

Shwe Mawlamyine Beverage

Enterprise Co., Ltd.

**SHWE MAWLAMYINE BEVERAGE ENTERPRISE CO., LTD.**
Room (A-4), No. 295, Myoma Appartment Myoma Kyaung St., Dagon Township, Yangon.
Tel : 95-1-4411198

## မြန်မာနိုင်ငံသားများသာပိုင်ဆိုင်သောလုပ်ငန်းဖြစ်ကြောင်းဝန်ခံကတိပြုခြင်း

ကျွန်တော်တို့၏ ရွှေမော်လမြိုင်အဖျော်ယမကာလုပ်ငန်း ကုမ္ပဏီလီမိတက် (**Shwe Mawlamyine Beverage Enterprise Co., Ltd.**) သည် စက်မှုဝန်ကြီးဌာနပိုင် မွန်ပြည်နယ်ဒေသကြီး၊ မော် လမြိုင်မြို့၊ နတ်ကျွန်းရပ်၊ မုပွန်ရပ်ကွက် ရှိစက်ရုံနှင့်မြေ(၆. ၆၉၄)နှင့် ကွင်းရပ်ကွက်၊ဇင်ယော်လမ်း၊ အမှတ် (၁၈) ရှိ ဝန်ထမ်းအိမ်ရာမြေ (၄. ၇၇၄) ဧကအပါအဝင် စုစုပေါင်းမြေ (၁၁. ၄၆၈) ဧကနှင့်ယင်းမြေ ပေါ်ရှိစက်ရုံနှင့် ဝန်ထမ်း အိမ်ရာကို B.O.T စနစ် ဖြင့်ကနဦး(၅၀)နှစ်နှင့်နောက်ထပ်(၁၀)နှစ်(၂)ကြိမ်ငှားရမ်း ၍လုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပြီးအဆိုပြုလုပ်ငန်းကိုမြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် လုပ်ငန်းဆောင်ရွက်မည် ဖြစ်ပါသည်။

၎င်းအဆိုပြုလုပ်ငန်း သည်မြန်မာ နိုင်ငံသားများသာလျှင်ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီးနိုင်ငံခြားသား မည်သူ တစ်ဦးတစ် ယောက်မျှပါဝင်ပိုင်ဆိုင်ခြင်းလုံးဝမရှိကြောင်းဝန်ခံကတိပြုပါသည်၊

လေးစားစွာဖြင့်

ဦးဇော်ဝင်း

မန်နေဂျင်းဒါရိုက်တာ

Shwe Mawlamyine Beverage

Enterprise Co., Ltd.

**SHWE MAWLAMYINE BEVERAGE ENTERPRISE CO., LTD.**

Room (A-4), No. 295, Myoma Appartment Myoma Kyaung St., Dagon Township, Yangon.

Tel : 95-1-4411198

## ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန်ဆောင်ရွက်ထားရှိမှုအခြေအနေတင်ပြခြင်း

ကျွန်တော်တို့၏ ရွှေမော်လမြိုင်အဖျော်ယမကာလုပ်ငန်း ကုမ္ပဏီလီမိတက် (**Shwe Mawlamyine Beverage Enterprise Co., Ltd.**) သည် စက်မှုဝန်ကြီးဌာနပိုင် မွန်ပြည်နယ်ဒေသကြီး၊ မော် လမြိုင်မြို့၊ နတ်ကျွန်းရပ်၊ မုပ္ပန်ရပ်ကွက် ရှိစက်ရုံနှင့်မြေ(၆. ၆၉၄)နှင့် ကွင်းရပ်ကွက်၊ဇင်ယော်လမ်း၊ အမှတ် (၁၈) ရှိ ဝန်ထမ်းအိမ်ရာမြေ (၄. ၇၇၄) ဧကအပါအဝင် စုစုပေါင်းမြေ (၁၁. ၄၆၈) ဧကနှင့်ယင်းမြေ ပေါ်ရှိစက်ရုံနှင့် ဝန်ထမ်း အိမ်ရာကို B.O.T စနစ် ဖြင့်ကနဦး(၅၀)နှစ်နှင့်နောက်ထပ်(၁၀)နှစ်(၂)ကြိမ်ငှားရမ်း ၍လုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပြီးအဆိုပြုလုပ်ငန်းကိုမြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် လုပ်ငန်းဆောင်ရွက်မည် ဖြစ်ပါသည်။

ထိုသို့ဆောင်ရွက်ရာ တွင်ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရေး အလုပ်ရုံအတွင်းစနစ်တကျအမှိုက်စွန့်ပစ်ရန်စီစဉ်ထား ရှိခြင်း၊ရေမြောင်းများအားရေစီးရေလာကောင်းမွန် အောင်စနစ်တကျ ဖေါက်လုပ်ထားရှိခြင်း၊ အလုပ်ရုံအတွင်း လေဝင်လေထွက်ကောင်းမွန်စေရန်စီမံဆောက်လုပ် မည်ဖြစ်ခြင်းနှင့် အလုပ် သမားနှင့် ရေအိမ်ညီညွတ်မျှတ အောင်စီမံဆောက်လုပ်ထားမည်ဖြစ်ပါသည်။

စက်ရုံ၏စားသောက်ဆောင်နှင့်၄င်းစက်ရုံ၏ လုပ်ငန်းခွင်မှ၄င်းထွက်ရှိလာသောအမှိုက်မျိုးစုံအားအမျိုးအစားခွဲခြားစွန့်ပစ်စေပြီးစက်မှုဇုန်နှင့်မြို့နယ်စည်ပင် သာယာရေးကော်မတီတို့၏စီမံမှုဖြင့်စနစ်တကျစွန့်ပစ်သွား မည်ဖြစ်ပါသည်၊ အလုပ်ရုံပတ်ဝန်းကျင်ရှိလမ်းများနှင့်ရေနုတ်မြောင်းများ၏သန့်ရှင်းရေးနှင့် ရေစီး ရေလာကောင်း မွန်စေရေးနှင့်ဝန်းကျင်သန့်ရှင်းစေရေးကိုလည်း စက်ရုံမှဆောင်ရွက်သွားမည် ဖြစ်ပါသည်၊

လုပ်ငန်းခွင်ဘေးအန္တရယ်ကင်းရှင်းရေးနှင့်ပတ်ဝန်းကျင်ဆူညံမှုနှင့်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေး၊ ရေစီးရေလာပိတ်ဆို့မသွားစေရေးနှင့်လမ်းပိတ်ဆို့မှုနှင့်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးကို အစွမ်းကုန်ကျိုးစားဆောင်ရွက်သွားမည်ဖြစ်ကြောင်းတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဦးဇော်ဝင်း

မန်နေဂျင်းဒါရိုက်တာ

Shwe Mawlamyine Beverage

Enterprise Co., Ltd.

**SHWE MAWLAMYINE BEVERAGE ENTERPRISE CO., LTD.**

Room (A-4), No. 295, Myoma Appartment Myoma Kyaung St., Dagon Township, Yangon.

Tel : 95-1-4411198

**CSR ရံပုံငွေထားရှိမည်ဖြစ်ကြောင်းဝန်ခံကတိပြုခြင်း**

ကျွန်တော်တို့၏ ရွှေမော်လမြိုင်အဖျော်ယမကာလုပ်ငန်း ကုမ္ပဏီလီမိတက် (**Shwe Mawlamyine Beverage Enterprise Co., Ltd.**) သည် စက်မှုဝန်ကြီးဌာနပိုင် မွန်ပြည်နယ်ဒေသကြီး၊ မော် လမြိုင်မြို့၊ နတ်ကျွန်းရပ်၊ မုပွန်ရပ်ကွက် ရှိစက်ရုံနှင့်မြေ(၆. ၆၉၄)နှင့် ကွင်းရပ်ကွက်၊ဇင်ယော်လမ်း၊ အမှတ် (၁၈) ရှိ ဝန်ထမ်းအိမ်ရာမြေ (၄. ၇၇၄) ဧကအပါအဝင် စုစုပေါင်းမြေ (၁၁. ၄၆၈) ဧကနှင့်ယင်းမြေ ပေါ်ရှိစက်ရုံနှင့် ဝန်ထမ်း အိမ်ရာကို B.O.T စနစ် ဖြင့်ကနဦး(၅၀)နှစ်နှင့်နောက်ထပ်(၁၀)နှစ်(၂)ကြိမ်ငှားရမ်း ၍လုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပြီးအဆိုပြုလုပ်ငန်းကိုမြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် လုပ်ငန်းဆောင်ရွက်မည် ဖြစ်ပါသည်။

အဆိုပြုလုပ်ငန်းမှနှစ်စဉ်အမြတ်ငွေ၏၂%အားယွှ ရံပုံငွေအဖြစ်ထားရှိသုံးစွဲမည်ဖြစ်ကြောင်း ဝန်ခံ ကတိပြုပါသည်။၎င်း ၂% ၏၂၀%အားပညာရေးအတွက်လည်ကောင်း၊၂၅%အားကျန်းမာရေးအတွက်၎င်း၊ ၂၀%အားလမ်းပမ်းဆက်သွယ်ရေးအတွက်နှင့်ကျန်၃၅%အားလူမှုရေးနှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးလုပ် ငန်း များအတွက်သုံးစွဲရန်လျာထားပါကြောင်းတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဦးဇော်ဝင်း

မန်နေဂျင်းဒါရိုက်တာ

Shwe Mawlamyine Beverage

Enterprise Co., Ltd.

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၃-စမ(၂)၂၀၁၄-၂၀၁၅(၄၇၃၇)

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇန်နဝါရီလ ၁၄ ရက်

သို့

ပြည်ထောင်စုရှေ့နေချုပ်ရုံး

အကြောင်းအရာ။ ငှားရမ်းရေးသဘောတူစာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးရေးကိစ္စ

၁။ စက်မှုဝန်ကြီးဌာန၊ ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း ကြီးကြပ်မှုရှိ မော်လမြိုင်အမှတ်(၄)အရက်ချက်စက်ရုံခွဲနှင့် ဝန်ထမ်းအိမ်ရာမြေ(၄.၇၇၄)ကေအား ၅.၉.၂၀၁၃ ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ်(၂၆/၂၀၁၃)၏ သဘောတူခွင့်ပြုချက်အရ Mandalay Golden Friend Mining Co., Ltd. သို့ ၁.၉.၂၀၁၃ ရက်နေ့မှစ၍ (၁၀+ ၅+ ၅)နှစ် ငှားရမ်းဆောင်ရွက်ခဲ့ပါသည်။

၂။ ကုမ္ပဏီအနေဖြင့် အမှတ်(၄)အရက်ချက်စက်ရုံခွဲတွင် B.O.T စနစ်ဖြင့် အဆောက်အဦသစ်များဆောက်လုပ်ခြင်း၊ စက်ပစ္စည်းအသစ်များတပ်ဆင်ခြင်း၊ စက်ရုံအားအဆင့်မြှင့်တင်ခြင်းနှင့်လုပ်ငန်းများတိုးချဲ့ဆောင်ရွက်လိုပါသဖြင့် ငှားရမ်းကာလအား (၅၀+ ၁၀+ ၁၀)ဖြင့် နှစ်ရှည်ငှားရမ်းဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြထားပြီးဖြစ်ပါသည်။

၃။ သို့ဖြစ်၍ မော်လမြိုင်အမှတ်(၄)အရက်ချက်စက်ရုံခွဲနှင့် ဝန်ထမ်းအိမ်ရာမြေ(၄.၇၇၄)ကေအား Mandalay Golden Friend Mining Co., Ltd. သို့ (၅၀+ ၁၀+ ၁၀)နှစ်ဖြင့် နှစ်ရှည်ငှားရမ်းဆောင်ရွက်နိုင်ရေးအတွက် ပူးတွဲပါ မူလငှားရမ်းရေးသဘောတူစာချုပ်နှင့်တကွ ပြင်ဆင်ချုပ်ဆိုမည့်စာချုပ်(မူကြမ်း)တို့အပေါ် အကြံပြုချက်နှင့် သဘောထားမှတ်ချက်များအား ပြန်ကြားပေးနိုင်ပါရန် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

၁၄.၁.၁၅

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

(လှမိုး၊ ရုံးအဖွဲ့မှူး)

မိတ္တူကို

ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ (MIC)

စက် မှု ဝန် ကြီး ဌာ န

ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း

စာအမှတ် ၊ ၁၅၁၁/စမ-၇(က) /၂၀၁၅ (၁၈၃၀)

ရက် စွဲ ၊ ၂၀၁၅ ခုနှစ် ၊ ဇန်နဝါရီလ (၉) ရက်

သို့

စက်မှုဝန်ကြီးဌာန

အကြောင်းအရာ။ ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း ကြီးကြပ်မှုရှိ မော်လမြိုင်အမှတ်(၄) အရက်ချက်စက်ရုံခွဲအား Mandalay Golden Friend Mining Co.,Ltd သို့ငှားရမ်းကာလ(၅၀+၁၀+၁၀)နှစ်ဖြင့် ငှားရမ်းနိုင်ရေးအတွက် "ငှားရမ်းသည့် သဘောတူစာချုပ် (မူကြမ်း)" အား ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် တောင်းခံခွင့် ပြုပါရန် တင်ပြခြင်း

၁။ ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း ကြီးကြပ်မှုရှိ မော်လမြိုင်အမှတ်(၄) အရက်ချက်စက်ရုံခွဲအား Mandalay Golden Friend Mining Co.,Ltd သို့ ငှားရမ်းကာလ ကနဦးနှစ်(၅၀)နှင့်သက်တမ်းတိုးတစ်ကြိမ်လျှင် (၁၀)နှစ်စီဖြင့်(၂)ကြိမ်တိုးမြှင့်၍ငှားရမ်းနိုင်ရေး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြဆောင်ရွက်လျက်ရှိပါသည်။

၂။ သို့ဖြစ်ပါ၍ မော်လမြိုင်အမှတ်(၄)အရက်ချက်စက်ရုံများအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ စာချုပ်(မူကြမ်း)အပေါ် စာချုပ်ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်တင်ပြပေးရန် တောင်းခံလာပါသဖြင့် သက်တမ်း(၅၀+၁၀+၁၀)နှစ်ဖြင့် ငှားရမ်းနိုင်ရေးအတွက် "စက်ရုံငှားရမ်းသည့် သဘောတူ စာချုပ်(မူကြမ်း)"အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် ရယူနိုင်ရေးအတွက်လိုအပ်သည်များ ညွှန်ကြားမှုပြုနိုင်ပါရန် စာချုပ်(မူကြမ်း)ပြုစု၍ ပူးတွဲတင်ပြအပ်ပါသည်။

(signature)

ဇော်ဟိန်း

ဦးဆောင်ညွှန်ကြားရေးမှူး

စက်မှုဝန်ကြီးဌာန

ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း

နှင့်

MANDALAY GOLDEN FRIEND MINING COMPANY LIMITED

တို့

ချုပ်ဆိုသော

မြင်းနှင့်သိုးမွေးမြူရေးစခန်းလက်အောက်ရှိ

မော်လမြိုင်အမှတ်(၄)အရက်ချက်စက်ရုံခွဲ ၊ ရေခဲစက်ဝန်ထမ်း

အိမ်ရာတို့၏ မြေ နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦ နှင့်

စက်ပစ္စည်းများအား

ငှားရမ်းသည့် သဘောတူစာချုပ်

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ လ (     ) ရက်

ကန့်သတ်

PI3D:\UZMA\Mawlamyaine4\mawlamyaine4(50+10+10).doc

စက်မှုဝန်ကြီးဌာန

ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း

နှင့်

MANDALAY GOLDEN FRIEND MINING COMPANY LIMITED

တို့၏

မော်လမြိုင်အမှတ်(၄)အရက်ချက်စက်ရုံခွဲ၊ ရေခဲစက်ဝန်ထမ်းအိမ်ရာတို့၏

မြေ နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦ နှင့် စက်ပစ္စည်းများအား ငှားရမ်းသည့်သဘောတူစာချုပ် အပေါ်

ပထမအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်

ဤပြင်ဆင်ချက်သဘောတူစာချုပ် (နောင်တွင် "ပြင်ဆင်ချက်သဘောတူစာချုပ်"ဟု ခေါ်တွင်မည်) ကို နေပြည်တော်တွင် ၂၀၁၅ ခုနှစ်၊ ( )ရက်နေ့၌ ဦးဇော်ဟိန်း၊ ဦးဆောင်ညွှန်ကြားရေးမှူး ကိုယ်စားပြုသော"ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း" စက်မှုဝန်ကြီးဌာန (နောင်တွင်'အငှားချထားသူ' ဟုခေါ်တွင်စေပြီး ယင်းဖော်ပြချက်တွင် ၎င်းအားဆက်ခံသူများ၊ ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်။) က တစ်ဖက်

နှင့်

ရန်ကုန်တိုင်းဒေသကြီး၊Room (A-4),No.295,Myoma Appartment Myoma Kyaung Street,Dagon Township နေ ဦးဇော်ဝင်း(၉/မရမ(နိုင်)၀၀၁၆၂၄) Managing Director ကိုယ်စားပြုသော"Manadalay Golden Friend Mining Co.,Ltd" (နောင်တွင် "အငှားချထားခြင်းခံရသူ"ဟု ခေါ်တွင်စေပြီး၊ ယင်းစကားရပ်တွင် ၎င်းတို့အားဆက်ခံသူများ တရားဝင် ကိုယ်စားလှယ်များနှင့် ဥပဒေအရလွှဲအပ်ခြင်း ခံရသူများ ပါဝင်သည်။)က အခြားတစ်ဖက်တို့သည်အောက်ပါ စည်းကမ်းချက်များကို သတ်မှတ်၍နှစ်ဦးသဘောတူ စာချုပ်ချုပ်ဆိုကြပါသည်-

(က) အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့ကြား မော်လမြိုင်အမှတ်(၄)အရက်ချက်စက်ရုံ၏ စက်ရုံ၊ မြေ၊ အဆောက်အဦများ နှင့် စက်ပစ္စည်းများကို တစ်နှစ်ငှားရမ်းခ ကျပ်သိန်း(၆၀.၀၀၀)ဖြင့် (၁.၁၀.၂၀၁၃)ရက်နေ့မှစတင်၍ (၁၀)နှစ်သက်တမ်း ငှားရမ်းခြင်း သဘောတူစာချုပ်ကို ၂၀၁၃ ခုနှစ်၊ ဩဂုတ်လ (၃၀)ရက်နေ့တွင် နေပြည်တော်၌ စာချုပ် (နောင်တွင်"မူလစာချုပ်"ဟုခေါ်ဆိုမည် ဖြစ်သည်) ချုပ်ဆို၍ ငှားရမ်းခဲ့သည်က တစ်ကြောင်း၊

(ခ) မူလစာချုပ်ကို (၅.၉.၂၀၁၃)ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂၆/၂၀၁၃)မှ ခွင့်ပြုခဲ့သည်ကတစ်ကြောင်း၊

ကန့်သတ်

(ဂ) အဆိုပါစာချုပ်၏ **စာချုပ်ပြင်ဆင်ခြင်း** ခေါင်းစဉ်အောက်ရှိ အပိုဒ်(၂၆)တွင် စာချုပ်ပါ စည်းကမ်းချက်များကို ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းနှင့် ထပ်မံဖြည့်စွက်ခြင်း ပြုလုပ်လိုပါက "**အငှားချထားသူ**"နှင့် "**အငှားချထားခြင်းခံရသူ**" တို့၏ နှစ်ဦးနှစ်ဖက် တရားဝင်စာဖြင့်သဘောတူညီချက်နှင့် **စက်မှုဝန်ကြီးဌာန၊ပစ္စည်း ဝယ်ယူရောင်းချရေးနှင့်ဘဏ္ဍာရေး ဆိုင်ရာကော်မတီအစည်းအဝေး** သို့တင်ပြ၍ အတည်ပြုချက်ရယူ ဆောင်ရွက်နိုင်သည်ဟု ဖော်ပြပါရှိသည်ကတစ်ကြောင်း၊

(ဃ) ငှားရမ်းသက်တမ်းကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုသက်တမ်းဖြစ်သည့် **ကနဦးနှစ်(၅၀) နှင့်** သက်တမ်းတိုးခြင်း **(၁၀)နှစ် (၂)ကြိမ်အဖြစ်** (၁.၁၀.၂၀၁၃) မှ စ၍ မူလ ငှားရမ်းသက်တမ်း (၁၀)နှစ်အပါအဝင် (၅၀+၁၀+၁၀)နှစ် တိုးမြှင့်လိုခြင်းကြောင့် ငှားရမ်းသည့် သဘောတူစာချုပ်၏ စာချုပ်ပြင်ဆင်ခြင်း အပိုဒ်(၂၆)အရ **ပထမအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ်**ကို စာချုပ်ဝင်များအကြားချုပ်ဆိုခြင်းဖြစ်သည်။

၁။ **မူလစာချုပ်** ခေါင်းစဉ် "**မော်လမြိုင်အမှတ်(၄)အရက်ချက်စက်ရုံခွဲ ၊ ရေခဲစက်ဝန်ထမ်းအိမ်ရာ နှင့် မြေ ၊ အဆောက်အဦ ၊ စက်ပစ္စည်းများအား ငှားရမ်းသည့်သဘောတူစာချုပ်**" အစား "**မော်လမြိုင် အမှတ် (၄)အရက်ချက်စက်ရုံခွဲ ၊ ရေခဲစက်ဝန်ထမ်းအိမ်ရာ နှင့် စက်ရုံမြေနှင့်ယင်းမြေပေါ်ရှိ အဆောက် အဦ ၊ စက် ပစ္စည်းများအားငှားရမ်းသည့် သဘောတူစာချုပ်အပေါ် ပထမအကြိမ်ပြင်ဆင်ချက်သဘောတူ စာချုပ်**"ဟု အစားထိုးပြင်ဆင်ရမည်။

၂။ **မူလစာချုပ်** တွင် မပါဝင်သော ရည်ရွယ်ချက်ခေါင်းစဉ်ကို အောက်ပါစာပိုဒ်ဖြင့် ထပ်မံဖြည့်စွက် ရမည်-

**ရည်ရွယ်ချက်**

၁။ "**အငှားချထားသူ**" ပိုင်ဆိုင်သော နတ်ကျွန်းရပ် ၊ မုပွန်ရပ်ကွက် ၊ မော်လမြိုင်မြို့ ၊ မွန်ပြည်နယ်ရှိ မော်လမြိုင်အမှတ်(၄)အရက်ချက်စက်ရုံ နှင့် ၁၈ ၊ ဇင်ယော်လမ်း ၊ ကွင်းရပ်ရပ်ကွက် ၊ မော်လမြိုင်မြို့ ၊ မွန်ပြည်နယ်ရှိ ရေခဲစက်ဝန်ထမ်းအိမ်ယာတို့ကို "**အငှားချထားခြင်းခံရသူ**"မှ ငှားရမ်းပြီးအဆင့်မြင့်ပြည်တွင်းဖြစ်အရက်များထုတ်လုပ်သည့် ပုလင်းသွင်းလုပ်ငန်းများကိုဆောင်ရွက်ပြီး ဖြန့်ဖြူးခြင်း ၊ ရောင်းချခြင်းလုပ်ငန်းများ ဆောင်ရွက်နိုင်ရန် ရည်ရွယ်လျက် ဤစက်ရုံငှားရမ်းသည့် သဘောတူစာချုပ်ကို ချုပ်ဆိုခြင်းဖြစ်သည်။

၃။ **မူလစာချုပ် ၏ အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း** ခေါင်းစဉ်ရှိ အပိုဒ် ၁ အား ပယ်ဖျက်၍အပိုဒ် ၂ အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုး ပြင်ဆင်ရမည်-

အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း

၂။ "အငှားချထားသူ"သည် နောက်ဆက်တွဲများတွင် အသေးစိတ် ဖော်ပြထားသော စက်ရုံ၊ မြေ ၊ အဆောက်အဦ ၊ စက်နှင့်စက်ပစ္စည်း ၊ ဓါတ်ခွဲခန်းသုံးပစ္စည်း ၊ ပရိဘောဂနှင့် ရုံးသုံးပစ္စည်း ၊ အိပ်ဆောင်သုံးပစ္စည်း ၊ မော်တော်ယာဉ်များကို တရားဝင် ပိုင်ဆိုင်သူဖြစ်ပါသည်။ "အငှားချထားခြင်းခံရသူ"သည်စာချုပ်ကို အကောင်အထည်ဖော်ဆောင်ရွက်ရန် ငွေကြေးပြည့်စုံပြီးစာချုပ်ပါ လုပ်ငန်းကို လုပ်ကိုင်ခွင့်ရှိသူဖြစ်သည်။စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူများသည် ဤစာချုပ်တွင်လက်မှတ်ရေးထိုးရန် အခွင့်အာဏာရှိသူဖြစ်ကြောင်းကို အသီးသီးအာမခံကြပါသည်။

၄။ မူလစာချုပ် ၏ အငှားချထားမည့်ပစ္စည်းများ ခေါင်းစဉ်ရှိ အပိုဒ် ၂ အား ပယ်ဖျက်၍ အပိုဒ် ၃ အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုး ပြင်ဆင်ရမည်-

အငှားချထားမည့်ပစ္စည်းများ

၃။ "အငှားချထားခြင်းခံရသူ" သည် အောက်ဖော်ပြပါ "အငှားချထားသူ" ပိုင် စက်ရုံ၊ မြေ ၊ အဆောက်အဦ နှင့် စက်ပစ္စည်း ၊ ဓါတ်ခွဲခန်းသုံးပစ္စည်း ၊ ပရိဘောဂနှင့် ရုံးသုံးပစ္စည်း ၊ အိတ်ဆောင်သုံး ပစ္စည်း ၊ မော်တော်ယာဉ်များကို ငှားရမ်း၍ အဆင့်မြင့် ပြည်တွင်းဖြစ်အရက်များ ထုတ်လုပ်သည့် ပုလင်းသွင်း လုပ်ငန်းများကို ဆောင်ရွက်ပြီး ဖြန့်ဖြူးခြင်း ၊ ရောင်းချခြင်းလုပ်ငန်းများ ဆောင်ရွက်မည်ဖြစ်ပါသည်-

| | | | |
|---|---|---|---|
| (က) စက်ရုံအမည်နှင့်တည်နေရာ | - | နတ်ကျွန်းရပ် ၊ မုပွန်ရပ်ကွက် ၊ မော်လမြိုင်မြို့ ၊ မွန်ပြည်နယ် ။(စက်ရုံ) | |
| | - | ၁၈ ၊ ဇင်ယော်လမ်း ၊ ကွင်းရပ်ရပ်ကွက် ၊ မော်လမြိုင်မြို့ ၊ မွန်ပြည်နယ် ။ (ရေခဲစက်ဝန်ထမ်းအိမ်ယာ) | |
| ( ခ) မြေ(ဧက) | - | စက်ရုံမြေဧရိယာ | ၆.၆၉၄ ဧက |
| | - | ရေခဲစက်ဝန်ထမ်းအိမ်ရာ | ၄.၇၇၄ ဧက |
| | - | စုစုပေါင်း | ၁၁.၄၆၈ ဧက |
| ( ဂ) တည်နေရာပြမြေပုံ | - | နောက်ဆက်တွဲ (က) | |
| (ဃ) အဆောက်အဦ | - | နောက်ဆက်တွဲ ( ခ) | |
| ( င) စက်နှင့်စက်ပစ္စည်း | - | နောက်ဆက်တွဲ ( ဂ) | |
| ( စ) ဓါတ်ခွဲခန်းသုံးပစ္စည်း | - | နောက်ဆက်တွဲ (ဃ) | |
| (ဆ) ပရိဘောဂနှင့်ရုံးသုံးပစ္စည်း | - | နောက်ဆက်တွဲ ( င) | |
| ( ဇ) အိပ်ဆောင်သုံးပစ္စည်း | - | နောက်ဆက်တွဲ ( စ) | |

(ဈ) မော်တော်ယာဉ်စာရင်း - နောက်ဆက်တွဲ (ဆ)
(ည) ဝန်ထမ်းအင်အားစာရင်း - နောက်ဆက်တွဲ (ဇ)
(ဋ) ကုန်ချောလက်ကျန်စာရင်း - နောက်ဆက်တွဲ (ဈ)

၅။ **မူလစာချုပ် ၏ ငှားရမ်းမည့်အချိန်ကာလ** ခေါင်းစဉ်ရှိ အပိုဒ် ၃ အားပယ်ဖျက်၍ အပိုဒ် ၄ အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

**ငှားရမ်းမည့်အချိန်ကာလ**

၄။ ငှားရမ်းမည့်အချိန်ကာလကနဦးနှစ်(၅၀)မှာ ၂၀၁၃ ခုနှစ် ၊ အောက်တိုဘာလ(၁)ရက်နေ့မှ ၂၀၆၃ ခုနှစ် စက်တင်ဘာလ (၃၀)ရက်နေ့ အထိဖြစ်ပြီး ထပ်မံ၍ သက်တမ်းတိုးခြင်းကို တစ်ကြိမ်လျှင် (၁၀)နှစ်စီဖြင့် သက်တမ်းတိုး (၂)ကြိမ် ဆောင်ရွက်နိုင်သည်။ထပ်မံသက်တမ်းတိုးဆောင်ရွက်ခြင်းကို စက်မှုဝန်ကြီးဌာနမှတဆင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အတည်ပြုချက် တင်ပြဆောင်ရွက်ရမည် ဖြစ်သည်။

၆။ **မူလစာချုပ် ၏ စာချုပ်သက်တမ်း** ခေါင်းစဉ်ရှိ အပိုဒ် ၄ အား ပယ်ဖျက်၍ အပိုဒ် ၅ အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

**စာချုပ်သက်တမ်း**

၅။ စာချုပ်သက်တမ်းမှာ ၂၀၁၃ ခုနှစ် ၊ အောက်တိုဘာလ (၁)ရက်နေ့မှ ၂၀၆၃ ခုနှစ် စက်တင်ဘာလ (၃၀)ရက်နေ့ အထိ ဖြစ်သည်။ ပထမအကြိမ်(၁၀)နှစ် သက်တမ်းတိုးမှာ ၂၀၆၃ ခုနှစ် ၊ အောက်တိုဘာလ (၁)ရက်နေ့မှ ၂၀၇၃ ခုနှစ် ၊ စက်တင်ဘာလ (၃၀)ရက်နေ့အထိ ဖြစ်ပြီး ဒုတိယအကြိမ်(၁၀)နှစ် သက်တမ်းတိုးမှာ ၂၀၇၃ ခုနှစ် အောက်တိုဘာလ (၁)ရက်နေ့မှ ၂၀၈၃ ခုနှစ် စက်တင်ဘာလ (၃၀)ရက်နေ့အထိဖြစ်သည်။

၇။ **မူလစာချုပ် ၏ ငှားရမ်းခနှုန်းထားများ** ခေါင်းစဉ်အောက်ရှိ အပိုဒ် ၉ နှင့် အပိုဒ် ၁၀ တို့အား အပိုဒ် ၆ ၊ အပိုဒ် ၇ တို့အဖြစ် ပြောင်းလဲပြင်ဆင်ရမည်ဖြစ်ပြီး ၊ ယင်းစာပိုဒ်များ၏နောက်တွင် အောက်ပါ အပိုဒ် ၈ အား ထပ်မံဖြည့်စွက်ရမည်-

**ငှားရမ်းခနှုန်းထားများ**

၈။ နောင်လာမည့်နှစ်များတွင်ငှားရမ်းခကို(၂)နှစ်(၁)ကြိမ်ပြန်လည်သုံးသပ်၍(၂%မှ ၅%) အတွင်း မပိုမလျော့နည်းစေရန် နှစ်ဖက်ညှိနှိုင်း ဆောင်ရွက်ရမည်။

၈။ **မူလစာချုပ် ၏ ငှားရမ်းခပေးသွင်းခြင်း** ခေါင်းစဉ်ရှိ အပိုဒ် ၁၁ ၊ ၁၂ အား ပယ်ဖျက်၍ အပိုဒ် ၉ အဖြစ် အောက်ပါစာပိုဒ် ဖြင့် အစားထိုးပြင်ဆင်ရမည်-

**ငှားရမ်းခပေးသွင်းခြင်း**

၉။ ယခုစာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ (၃)လအတွက် ငှားရမ်းခကျသင့်ငွေကို (၃)လလျှင် တစ်ကြိမ် ပထမလ၏ (၁၅)ရက် အတွင်းပေးသွင်းရမည်။

၉။ မူလစာချုပ် ၏ နောက်ကျကြေးပေးသွင်းခြင်း ခေါင်းစဉ် အပိုဒ် ၁၃ အား ပယ်ဖျက်၍ အပိုဒ် ၁၀ အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

နောက်ကျကြေးပေးသွင်းခြင်း

၁၀။ "အငှားချထားခြင်းခံရသူ"သည် ယခုစာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ ပထမလ ၏(၁၅)ရက်အတွင်းပေးသွင်းရမည့်(၃)လအတွက်ငှားရမ်းခအားပေးသွင်းရန်ပျက်ကွက်ပါက နောက်ကျကြေး အဖြစ် တစ်လနောက်ကျ တိုင်း(၃)လအတွက် ပေးသွင်းရမည့်ငွေ၏ (၀.၅%) (သုညဒသမ ငါးရာခိုင်နှုန်း)ကို ဒဏ်ကြေးအဖြစ် သတ်မှတ်၍ နောက်ကျသည့် ရက်အတိုင်း တွက်ချက်ပေးဆောင်ရမည်။

၀၀။ မူလစာချုပ် ၏ "အငှားချထားခြင်းခံရသူ" ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ ခေါင်းစဉ်ရှိ အပိုဒ် ၁၄

တား ပယ်ဖျက်၍ အပိုဒ် ၁၁ အဖြစ် အောက်ပါစာပိုဒ် ဖြင့် အစားထိုးပြင်ဆင်ရမည်-

**အငှားချထားခြင်းခံရသူ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ**

၁၁။ **"အငှားချထားခြင်းခံရသူ"**၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) မြေ ၊ အဆောက်အဦများ ၊ စက်ပစ္စည်းများ ၊ ရုံးသုံးပစ္စည်းများ အခြားပစ္စည်းများ ၊ မော်တော်ယာဥ် နှင့် အခြားယာဥ်များနှင့်ပတ်သက်၍ နောက်ဆက်တွဲပါအတိုင်း အသုံးပြုနိုင်သည်။

( ခ) အကယ်၍ အသုံးပြုလိုခြင်းမရှိသော စက်ပစ္စည်းကိရိယာများ ရုံးသုံးပစ္စည်းများ ၊ ရုံးသုံးကိရိယာများ ၊ အခြားပရိဘောဂများ ၊ မော်တော်ယာဥ်များရှိပါက "အငှားချထားသူ"သို့ ညှိနှိုင်း၍ စနစ်တကျလွှဲပြောင်းပေးနိုင်သည်။

( ဂ ) "အငှားချထားခြင်းခံရသူ"၏ လုပ်ငန်းနှင့်မကိုက်ညီသောမူလအဆောက်အဦကို ပြုပြင်ရန်(သို့)ဖြိုဖျက်ရန်အလို့ငှာ "အငှားချထားသူ"၏ သဘောတူခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်နိုင် သည်။

(ဃ) "အငှားချထားခြင်းခံရသူ"သည် လုပ်ငန်းတိုးချဲ့ခြင်း ၊ ပြင်ဆင်ခြင်း ၊ မွမ်းမံခြင်း ၊ အဆောက်အဦ ဆောက်လုပ်ခြင်းများကို "အငှားချထားသူ"၏ သဘောတူခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်နိုင် သည်။

(င) **"အငှားချထားခြင်းခံရသူ"**သည် ငှားရမ်းချိန်ကပါရှိသော အဆောက်အဦများမှအပ မြေလွတ်များတွင် စီးပွားရေးဆိုင်ရာ အဆောက်အဦများ ထပ်မံဆောက်လုပ် ဆောင်ရွက်မည်ဆိုပါက လုပ်ငန်းအခြေအနေပေါ်မူတည်၍ ငှားရမ်းခတိုးမြှင့်ခြင်း ကိုနှစ်ဖက်ညှိနှိုင်း ဆောင်ရွက်ရမည်။

( စ) စက်ရုံရှိ စာချုပ်ပါငှားရမ်းသည့် စက်ပစ္စည်း ၊ အဆောက်အဦများနှင့်ပတ်သက်၍ ပြုပြင်ထိန်းသိမ်းမှုများကို "အငှားချထားခြင်းခံရသူ" မှ တာဝန်ယူဆောင်ရွက်ရမည်။

ကန့်သတ်

(ဆ) "အငှားချထားခြင်းခံရသူ" သည် ငှားရမ်းခငွေများကို ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်နှင့်အညီသတ်မှတ်ထားသည့် အချိန်အတွင်း "အငှားချထားသူ"ထံ မှန်မှန်ကန်ကန် ပေးသွင်းရမည်။

(ဇ) စက်ရုံအား စတင်ငှားရမ်းသည့်အချိန်ရှိ စက်ရုံနှင့်ပတ်သက်သည့် ဌာနအလိုက် စာရွက်စာတမ်းများ၊ စာရင်းများကို စာရင်းစစ် အစစ်ဆေးခံနိုင်ရန်နှင့် အခြား လိုအပ်သည်များဆောင်ရွက်နိုင်ရန်စက်ရုံနောက်ချန်အဖွဲ့မှ စနစ်တကျ ထိန်းသိမ်း ဆောင်ရွက်နိုင်ရန် စီစဉ်ပေးရမည်။

(ဈ) အငှားချထားသည့် ပစ္စည်းအားလုံးကို လျော်ကန်သင့်မြတ်သော သတိဝီရိယဖြင့် ကောင်းမွန်စွာ ထိန်းသိမ်းထားရမည်။ လျှပ်စစ်ဓါတ်အားသုံးစွဲမှုကို တည်ဆဲဥပဒေ စည်းမျဉ်းများနှင့်အညီ သုံးစွဲပြီးမီးဘေးကာကွယ်ရေး အစီအမံများ လုံလောက်စွာ ထားရှိရမည်။

(ည) အငှားချထားသည့် ပစ္စည်းများကို တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ ရောင်းချခြင်း၊ သို့မဟုတ် တနည်းနည်းဖြင့် လွှဲပြောင်းပေးခြင်း စသည်တို့ လုံးဝ မပြုလုပ်ရ။

(ဋ) "အငှားချထားခြင်းခံရသူ"သည်အငှားချထားသည့်ကာလအတွင်း"အငှားချထားသူ" မှလည်းကောင်း၊ " အငှားချထားသူ" က နည်းလမ်းတကျလုပ်ပိုင်ခွင့်ပေးထားသော ကိုယ်စားလှယ်များကိုလည်းကောင်း လိုအပ်ပါကဝင်ရောက်လေ့လာခြင်း ၊ စစ်ဆေး ခြင်းများဆောင်ရွက်ခြင်းရှိပါက ခွင့်ပြုရမည်။

(ဌ) အငှားချထားသည့် ပစ္စည်းများနှင့် ပတ်သက်၍ မြေခွန်မှအပ သက်ဆိုင်သည့် အခွန်အခ အမျိုးမျိုးကိုကျခံပေးဆောင်ရမည်။

(ဍ) အငှားချထားသည့်ပစ္စည်းများနှင့်စပ်လျဉ်း၍အလုံးစုံသောအာမခံကိုမြန်မာ့အာမခံ လုပ်ငန်းဥပဒေပါ ပြဋ္ဌာန်းချက်နှင့်အညီ မပျက်မကွက် ထားရှိ ဆောင်ရွက် ရမည်။

(ဎ) ဤသဘောတူစာချုပ် သက်တမ်းကုန်သည့်အခါ အငှားချထားသည့် စက်ရုံကို မူလငှားရမ်းစဉ်က အခြေအနေထက်မလျော့ဘဲ ထိန်းသိမ်းထားရမည်။ သို့ရာတွင် အကျိုး အကြောင်းဆီလျော်မှုရှိသော ပျက်စီးမှုများအတွက်ပြောင်းလဲမှုများကို ခွင့်ပြု လက်ခံနိုင်သည်။

(ဏ) အငှားချထားသည့်စက်ရုံတွင်တပ်ဆင်မှုများ၊ ပုံစံပြောင်းလဲမှုနှင့် တိုးချဲ့မှုများ အားလုံးသည်ငှားရမ်းခြင်းစာချုပ်သက်တမ်းကုန်ဆုံးသည့်အချိန်တွင်အခကြေးငွေ ပေးရန် မလိုဘဲ "အငှားချထားသူ"ပိုင်ပစ္စည်းများအလိုအလျောက်ဖြစ်လာရမည်။ အကယ်၍မိမိ တပ်ဆင်ထားသောပစ္စည်းအား အငှားချထားသည့် အဆောက်အဦ လွှဲပြောင်းချိန်တွင်ပြန်လည် ဖြုတ်ယူသွားလိုပါကယင်းပစ္စည်းများအားတပ်ဆင်ခြင်း မပြုမီကတည်းကနှစ်ဖက်ညှိနှိုင်းအတည်ပြုချက်ရယူထားရမည်။သို့ရာတွင်လေအေး ပေးစက်များ၊လျှပ်စစ်ထုတ်စက်များ နှင့်အခြားရွှေ့ပြောင်းနိုင်သည့် ပစ္စည်းများကိုမူ ထားခဲ့ရန်မလိုဘဲ ဖြုတ်ယူသွားနိုင်သည်။

ကန့်သတ်

(တ) စက်ရုံမှထုတ်ကုန်များအား ပြင်ပဈေးကွက်တွင် မိမိကြိုက်နှစ်သက်သည့် ဈေးနှုန်းဖြင့် လွတ်လပ်စွာ ရောင်းချခွင့်၊ သိုလှောင်ခွင့်၊ သယ်ယူခွင့်ရှိသည်။

(ထ) **"အငှားချထားခြင်းခံရသူ"** သည် တရားဥပဒေနှင့်မညီညွတ်သော လုပ်ငန်းများကို လုပ်ကိုင် ဆောင်ရွက်ခြင်း မပြုရ။

(ဒ) **"အငှားချထားခြင်းခံရသူ"** သည် မူလလုပ်ငန်းအပြင် နိုင်ငံတော်မှ ခွင့်ပြုထားသော အခြားလုပ်ငန်းများအားလုပ်ကိုင်ဆောင်ရွက်လိုပါက"အငှားချထားသူ"၏ သဘောတူ ခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်နိုင် သည်။

(ဓ) **"အငှားချထားခြင်းခံရသူ"** မှ ဆောင်ရွက်မည့် စာချုပ်ပါလုပ်ငန်းများအတွက် သက်ဆိုင်ရာဌာနဆိုင်ရာများ၏ လုပ်ငန်းဆောင်ရွက်ခွင့်ပြုမိန့် အထောက်အထားများထားရှိပြီး **"အငှားချ ထားသူ"** ထံ မိတ္တူတစ်စုံ အပ်နှံထားရမည်။

(န) အငှားချထားသည့်ပစ္စည်းရပ်များတွင်**"အငှားချထားသူ"**၏(နေ့စား၊လခစား)ဝန်ထမ်းများအနက်ဝင်းတို့၏ဆန္ဒအလျောက်**"အငှားချထားခြင်းခံရသူ"**(ကုမ္ပဏီ)သို့ လိုက်ပါမည့် ဝန်ထမ်းများကို **"အငှားချထားခြင်းခံရသူ"** (ကုမ္ပဏီ) သည် အလုပ်သမား အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာနမှ သတ်မှတ်ထားသည့် ပြင်ပဝန်ထမ်း စည်းမျဉ်းဥပဒေနှင့်အညီ ကုမ္ပဏီ၏ စီမံခန့်ခွဲမှု (ကုမ္ပဏီဝန်ထမ်းအဖြစ်) ဖြင့် လွှဲပြောင်းလက်ခံ ဆောင်ရွက်ရမည်။

(ပ) **"အငှားချထားခြင်းခံရသူ"** သည် လုပ်ငန်းများကို တိုးချဲ့ရာတွင် ပြည်တွင်း ၊ ပြည်ပ ရင်းနှီးမြှုပ်နှံမှုများ နှင့်အကျိုးတူပူးပေါင်း ဆောင်ရွက်မည်ဆိုပါက မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု ဥပဒေ၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လုပ်ကိုင်ဆောင်ရွက်ရမည်။

(ဖ) **"အငှားချထားခြင်းခံရသူ"**သည် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ သတ်မှတ်ချက်များကိုလိုက်နာဆောင်ရွက်ရမည်။

(ဗ) **"အငှားချထားခြင်းခံရသူ"** သည်ပတ်ဝန်းကျင်အန္တရာယ်အလျှက် အန္တရာယ်ဖြစ်စေ မည့် အကြောင်းအချက်များကို ကြိုတင်ကာကွယ်တားဆီး၍ ဖြစ်ပွားပါက ပြီးဆုံး သည့်တိုင် အောင် တာဝန်ယူဖြေရှင်းဆောင်ရွက်ရမည်။

(ဘ) နိုင်ငံတော်မှ သတ်မှတ်ထားသော သက်ဆိုင်ရာဥပဒေများ၊ ဒေသဆိုင်ရာ လူမှုဘဝ ကိစ္စရပ် များနှင့်ပတ်သက်၍ အကြောင်းတစ်စုံတစ်ရာ ပေါ်ပေါက်ပါက **"အငှားချ ထားခြင်းခံရသူ"** မှ တာဝန်ယူ ဖြေရှင်းရမည်။

(မ ) ဝန်ထမ်းများအတွက် ပင်စင်ထည့်ဝင်ကြေးကို **"အငှားချထားခြင်းခံရသူ"** မှ ဆေးဝါး နှင့် စားသောက်ကုန်လုပ်ငန်း သို့ လစဉ် မပျက်မကွက်ပေးသွင်းရမည်။

၁၀။ မူလစာချုပ် ၏ **"အငှားချထားသူ"**၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ ခေါင်းစဉ်ရှိ အပိုဒ် ၁၅ အား ပယ်ဖျက်၍ အပိုဒ် ၁၂ အဖြစ် အောက်ပါစာပိုဒ် ဖြင့် အစားထိုးပြင်ဆင်ရမည်-

## "အငှားချထားသူ"၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ

၁၂။ "အငှားချထားသူ"၏တာဝန်နှင့်လုပ်ပိုင်ခွင့်များမှာအောက်ပါအတိုင်းဖြစ်ပါ သည်-

(က) "အငှားချထားခြင်းခံရသူ" အား နောက်ဆက်တွဲများပါ အငှားချထားသည့်ပစ္စည်းများကို အသုံးပြုခွင့်ပေးရမည်။

(ခ) စက်ရုံတွင်တပ်ဆင်ထားပြီးသော လျှပ်စစ်၊ ရေ၊ တယ်လီဖုန်း တို့ကို "အငှားချထားခြင်းခံရသူ" အား ဆက်လက်အသုံးပြုခွင့်ပြုရမည်။

(ဂ) အငှားချထားသည့် စက်ရုံ၏ အခြေအနေများကို နည်းလမ်းတကျ လုပ်ပိုင်ခွင့်ပေးအပ်သော ကိုယ်စားလှယ်များ စေလွှတ်၍ စစ်ဆေးပိုင်ခွင့်ရှိသည်။

(ဃ) စက်ရုံအတွက်ကျသင့်သည့် မြေခွန်ကို ပေးဆောင်ရမည်။

(င) "အငှားချထားခြင်းခံရသူ"မှ အသုံးပြုလိုခြင်း မရှိကြောင်းညှိနှိုင်း တင်ပြလာသည့် စက်ပစ္စည်းကိရိယာများကို စက်မှုဝန်ကြီးဌာန သို့တင်ပြ၍လိုအပ်သလို စီမံခန့်ခွဲခွင့်ရှိသည်။

(စ) "အငှားချထားခြင်းခံရသူ "၏ လုပ်ငန်းနှင့် မကိုက်ညီကြောင်း ညှိနှိုင်းတင်ပြလာသည့် မူလအဆောက်အဦကို ရှင်းလင်းရန် စက်မှုဝန်ကြီးဌာန သို့တင်ပြ၍ စီမံဆောင်ရွက်ခွင့်ရှိသည်။

(ဆ) ဝန်ထမ်းများ ရာထူးတိုးမြှင့်ရေး ၊ ပြောင်းရွှေ့ရေးကိစ္စများကို "အငှားချထားခြင်းခံရသူ" နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

(ဇ) စက်ရုံအား စတင်ငှားရမ်းသည့်အချိန်ရှိ စက်ရုံနှင့် ပတ်သက်သည့်ဌာနအလိုက် စာရွက်စာတမ်းများ၊စာရင်းများကိုစာရင်းစစ်အစစ်ဆေးခံနိုင်ရန်နှင့်အခြားလိုအပ်သည်များ ဆောင်ရွက်နိုင်ရန် "အငှားချထားခြင်းခံရသူ" နှင့်ညှိနှိုင်း၍ စနစ်တကျ ထိန်းသိမ်းထားရှိရမည်။

(ဈ) စက်ရုံရှိ(နေ့စား/လခစား)ဝန်ထမ်းများအနက်"အငှားချထားခြင်းခံရသူ"(ကုမ္ပဏီ) သို့လိုက်မည့် ဝန်ထမ်းများကိုအထူးပင်စင်ခံစားခွင့်ပြုကာ ကုမ္ပဏီဝန်ထမ်း အဖြစ်အပြီးအပြတ် လွှဲပြောင်းခွင့်ရှိသည်။

(ည) အငှားချထားသည့် စက်ရုံဧရိယာအတွင်း လုပ်ငန်းဆောင်ရွက်မှုနှင့်စပ်လျဉ်း၍ "အငှားချထားခြင်းခံရသူ"၏အခက်အခဲများကိုသက်ဆိုင်ရာဌာနများသို့"အငှားချထားခြင်း ခံရသူ"တို့နှင့် ညှိနှိုင်း၍ တတ်နိုင်သမျှ ကူညီဆောင်ရွက်ပေးရမည်။

(ဋ) "အငှားချထားသူ"သည် နိုင်ငံတော်၏မူဝါဒနှင့်အညီ " ငှားရမ်းသည့်သဘောတူစာချုပ်" ကို ပြင်ဆင်ချုပ်ဆိုခွင့်ရှိသည်။

၁၂။ မူလစာချုပ် ၏ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်းခေါင်းစဉ် ရှိ အပိုဒ် ၂၂ အား အပိုဒ် ၁၃ အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည် -

ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း

၁၃။ "**အငှားချထားခြင်းခံရသူ**"အနေဖြင့် လုပ်ငန်းလုပ်ဆောင်မည့်နေရာဒေသ၏ ပတ်ဝန်းကျင်နေရာများအား ကောင်းစွာ ကာကွယ်ထိန်းသိမ်း စောင့်ရှောက်ထားရန် တာဝန်ရှိသည်။ ထို့အပြင် လေထု ၊ ရေထုနှင့် မြေထုများညစ်ညမ်းခြင်းနှင့် အခြားသော ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်ပျက်စီးဆုံးရှုံးခြင်းအားကာကွယ်ထိန်းချုပ်ခြင်းလုပ်ငန်းများကိုဆောင်ရွက်ရမည် ။ ရေများသန့်စင်နိုင်သော စက်များ တပ်ဆင် ပေးခြင်း ၊ လေထုညစ်ညမ်းမှုများမဖြစ်ပေါ်စေရန် အခိုးအငွေ့နှင့်အညစ်အကြေးစွန့် အစိတ်အပိုင်းများကို လုံခြုံစွာထားရှိပေးခြင်းဖြင့် အခြားသော ပတ်ဝန်းကျင်ဘေးအန္တရာယ် ကင်းရှင်းရေးဆိုင်ရာ လိုအပ်သော အကာအကွယ် အစီအစဉ်များ ဆောင်ရွက်ရမည် ။

၁၃။ မူလစာချုပ် ၏ ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ ခေါင်းစဉ်ကို အပိုဒ် ၂၃ အား အပိုဒ် ၁၄ အဖြစ် ပြောင်းလဲပြင်ဆင်ရမည်။

၁၄။ မူလစာချုပ် တွင် မပါဝင်သော အာမခံထားရှိခြင်း ခေါင်းစဉ်ကို အပိုဒ် ၁၅ အဖြစ် အောက်ပါစာပိုဒ်အား ထပ်မံဖြည့်စွက်ရမည် -

**အာမခံထားရှိခြင်း**

၁၅။ အငှားချထားခြင်းခံရသူသည် တစ်နှစ်စာငှားရမ်းခ၏ ၁၀ % နှင့်ညီမျှသော တန်ဖိုးအားလုပ်ငန်းဆောင်ရွက်မှုအာမခံ (Performance Bank Guarantee) အဖြစ် မြန်မာ့စီးပွားရေးဘဏ်တွင် အပ်နှံထားရှိ၍ ထားရှိမှုမှတ်တမ်းကို စာချုပ်သက်တမ်း တစ်လျှောက်ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်းတွင် သိမ်းဆည်းထားရှိရမည်။

၁၅။ မူလစာချုပ် ၏ စာချုပ်ပြန်လည်စေ့စပ်ညှိနှိုင်းခြင်း ခေါင်းစဉ်ရှိ အပိုဒ် ၂၄ အား အပိုဒ် ၁၆ အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည် -

**စာချုပ်ပြန်လည်စေ့စပ်ညှိနှိုင်းခြင်း**

၁၆။ ဤပြင်ဆင်ချက်သဘောတူစာချုပ်ပါ စည်းကမ်းချက်များနှင့်အညီ လုပ်ငန်းအကောင်အထည်ဖော် ဆောင်ရွက်ရာ တွင် လုပ်ငန်း လိုအပ်ချက်အရ သို့မဟုတ် ဤစာချုပ်တွင် မပါရှိသည့်ကိစ္စရပ်များ ပေါ်ပေါက်လာလျှင် စာချုပ်ဝင် နှစ်ဦးနှစ်ဖက် ညှိနှိုင်းခွင့်ရှိစေရမည်။

၁၆။ မူလစာချုပ် ၏ စာချုပ်သက်တမ်းတိုးခြင်း ခေါင်းစဉ်ရှိ အပိုဒ် ၁၆ အား ပယ်ဖျက်၍ အပိုဒ် ၁၇ အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

**စာချုပ်သက်တမ်းတိုးခြင်း**

၁၇။ **"အငှားချထားခြင်းခံရသူ"** သည် ဤသဘောတူစာချုပ်သက်တမ်းကုန်ဆုံးပြီးနောက် အငှားချ ထားသည့် စက်ရုံကို ဆက်လက်ငှားရမ်းလိုပါက နောက်ထပ် ငှားရမ်းလိုသည့် ကာလနှင့် ငှားရမ်းခနှုန်း ထားများကို ဖော်ပြလျက် စာချုပ်သက်တမ်းတိုးမြှင့်ပေးပါရန် **"အငှားချထားသူ"** ထံ စာချုပ်သက်တမ်း မကုန်ဆုံးမီ(၃)လကြိုတင်၍စာဖြင့်တင်ပြရမည်။ ထပ်မံငှားရမ်းမည့် ကာလအတွက် နှစ်စဉ်ငှားရမ်းခ နှုန်းထားကို နှစ်ဦးနှစ်ဖက် ညှိနှိုင်း သတ်မှတ်ရမည်။ ထိုသို့သက်တမ်း တိုးမြှင့်ခြင်း၊ ငှားရမ်းခနှုန်းထား ပြင်ဆင်ခြင်း တို့သည်စက်မှုဝန်ကြီးဌာန၊ **ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာ ကော်မတီ အစည်းအဝေး** ၏အတည်ပြုချက်ရရှိ မှသာ အတည်ဖြစ်စေရမည်။

၁၇။ **မူလစာချုပ်** ၏ အငြင်းပွားမှုဖြေရှင်းခြင်း ခေါင်းစဉ်ရှိ အပိုဒ် ၁၇ အား အပိုဒ် ၁၈ အဖြစ် ပြောင်းလဲ ပြင်ဆင်ရမည်။

၁၈။ **မူလစာချုပ်** ၏ သဃ်ဇာတပစ္စည်းဆိုင်ရာကိစ္စ ခေါင်းစဉ်ရှိ အပိုဒ် ၁၈ အား အပိုဒ် ၁၉ အဖြစ် ပြောင်းလဲပြင်ဆင်ရမည်။

၁၉။ **မူလစာချုပ်** ၏ ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း ခေါင်းစဉ်ရှိ အပိုဒ် ၁၉ အား အပိုဒ် ၂၀ အဖြစ် တဖြစ် အောက်ပါစာပိုဒ် ဖြင့် အစားထိုးပြင်ဆင်ရမည်-

**ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း**

၂၀။ **"အငှားချထားခြင်းခံရသူ"**သည်ဤပြင်ဆင်ချက်သဘောတူစာချုပ်ပါငှားရမ်းခြင်းကာလ ကုန်ဆုံး သည့်အခါ ယင်းသို့ကုန်ဆုံးသည့်နေ့မှ (၃၀)ရက်အတွင်းအငှားချထားသည့် စက်ရုံ၊ မြေ၊ အဆောက်အဦနှင့်စက်ကိရိယာများ နှင့် အခြားပံ့သေပိုင် ပစ္စည်းများကို **"အငှားချထားသူ** သို့အဖိုးစားနားမပါဘဲကောင်းမွန်သော အနေအထားဖြင့် ပြန်လည် လွှဲပြောင်းပေးအပ်ရမည်။ သို့ရာတွင် သတ်မှတ်ကာလအတွင်း လွှဲပြောင်းခြင်း ကိစ္စရပ် အား မပြီးစီးပါက ခိုင်လုံသော အကြောင်းပြချက်ဖော်ပြ၍ စာဖြင့်(၇)ရက် ကြိုတင် တင်ပြ တောင်းခံညှိနှိုင်းဆောင်ရွက်ရမည်။

၂၀။ **မူလစာချုပ်** ၏ မလွန်ဆန်နိုင်သည့် ဖြစ်ရပ်များ ခေါင်းစဉ်ရှိ အပိုဒ် ၂၀ နှင့် အပိုဒ် ၂၁ တို့အား ပယ်ဖျက်၍ အပိုဒ် ၂၁ နှင့် အပိုဒ် ၂၂ တို့ အဖြစ် အောက်ပါစာပိုဒ်များဖြင့် အစားထိုးပြင်ဆင်ရမည်-

**မလွန်ဆန်နိုင်သည့် ဖြစ်ရပ်များ**

၂၁။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များဆိုသည်မှာ သဘာဝအလျောက် ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေး စသည်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ တရားဥပဒေစိုးမိုးရေးနှင့်ငြိမ်ဝပ်ပိပြားမှုပယ်ဖျက်ခြင်း၊စစ်ဖြစ် ခြင်း၊သပိတ်မှောက်ခြင်းစသည်တို့နှင့်စာချုပ်ဝင် တစ်ဖက်ဖက်ကလိုအပ်သောသတိ ဝိရိယ နှင့်ဆောင်ရွက်စေကာမူမလွန်ဆန်မကျော်လွှားနိုင်သည့်အလားတူ ဖြစ်ရပ်များဖြစ်ပြီးယင်း ဖြစ်ရပ်များကြောင့်ငှားရမ်းသုံးစွဲမှုကိုထိခိုက်ဆုံးရှုံးစေလျှင်"အငှားချထားခြင်းခံရသူ" သည် "အငှားချထားသူ" သို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခံခွင့် မရှိစေရ။

၂၂။ ထိုသို့မလွန်ဆန်နိုင်သောဖြစ်ရပ်များပေါ်ပေါက်ပါကယင်းဖြစ်ရပ်ဖြစ်ပေါ်သည့် အချိန်မှ ၁၄ (တစ်ဆယ့်လေး)ရက်အတွင်း "အငှားချထားခြင်းခံရသူ" သည် "အငှားချထားသူ" သို့ ချက်ချင်းစာဖြင့်ရေးသားအကြောင်းကြားရမည်။ "အငှားချထားသူ" ကလက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ်ပြောက်ပြီး စက်ရုံ၊ မြေ ၊ အဆောက်အဦ နှင့် စက်ပစ္စည်း ၊ ဓါတ်ခွဲခန်းသုံးပစ္စည်း ၊ပရိဘောဂနှင့်ရုံးသုံးပစ္စည်း ၊အိတ်ဆောင်သုံးပစ္စည်း ၊မော်တော်ယာဉ်များကိုငှားရမ်းအသုံးပြုခွင့်နှင့်တိုက်ရိုက်သက်ဆိုင်သော၊ဖြတ်တောက်ကာလအပိုင်းအခြားအတွက် ငှားရမ်းခကို သက်သာခွင့်ပြုနိုင်သည်။

**၂၀။** မူလစာချုပ် ၏ **စာချုပ်အကျိုးသက်ရောက်သည့်နေ့** ခေါင်းစဉ်ရှိ အပိုဒ် ၂၅ အား ပယ်ဖျက်၍ **စာချုပ်အတည်ဖြစ်ခြင်း** အပိုဒ် ၂၃ အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးရမည်-

**စာချုပ်အတည်ဖြစ်ခြင်း**

၂၃။ဤပြင်ဆင်ချက်သဘောတူစာချုပ်သည် "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ" တို့လက်မှတ် ရေးထိုးပြီးသည့် နေ့မှစ၍ အတည်ဖြစ်သည်။

**၂၂။** မူလစာချုပ် ၏ **စာချုပ်ပြင်ဆင်ခြင်း** ခေါင်းစဉ်ရှိ အပိုဒ် ၂၆ နှင့် အပိုဒ် ၂၇ တို့အား ပယ်ဖျက်၍ **အပိုဒ်** ၂၄ နှင့် အပိုဒ် ၂၅ တို့အဖြစ် အောက်ပါစာပိုဒ်များဖြင့် အစားထိုးပြင်ဆင်ရမည်-

**စာချုပ်ပြင်ဆင်ခြင်း**

၂၄။ ဤပြင်ဆင်ချက်သဘောတူစာချုပ်ပါစည်းကမ်းများကို ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းနှင့် ထပ်မံဖြည့်စွက်ခြင်း ပြုလုပ်လိုပါက "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ" တို့၏ နှစ်ဦးနှစ်ဖက် တရားဝင်စာဖြင့် သဘောတူညီချက်နှင့် **စက်မှုဝန်ကြီးဌာန၊ပစ္စည်းဝယ်ယူရောင်းချရေးနှင့်ဘဏ္ဍာရေးဆိုင်ရာကော်မတီအစည်းအဝေး** သို့တင်ပြ၍ အတည်ပြုချက်ရယူဆောင်ရွက်နိုင်သည်။

၂၅။ "**အငှားချထားခြင်းခံရသူ**" မှ စက်ရုံ ငှားရမ်းရာတွင် စီးပွားရေးအရ တွက်ချေကိုက်မှုမရှိခြင်း၊ အခြားသော အဆင်မပြေမှုများရှိခြင်းကြောင့် နှစ်ဦးနှစ်ဖက် ပြန်လည်ညှိနှိုင်းဆွေးနွေးရန် (၃)လကြိုတင် အကြောင်းကြားရမည်။ သို့ရာတွင် ယင်းဆွေးနွေးသည့် အချိန်ကာလမှစ၍ နောင်ထပ်မံငှားရမ်းသူ ရရှိသည့်အချိန်ကာလအထိ လက်ရှိငှားရမ်းခွင့်ရရှိသူမှ စက်ရုံနှင့်ပတ်သက်သည့် စက်ရုံငှားရမ်းခ ၊ ဝန်ထမ်းလစာ နှင့် စရိတ်များ ၊ ပင်စင်ထည့်ဝင်ကြေးများ ၊ အခြားစရိတ်များအားလုံးကို ကျခံဆောင်ရွက် ပေးရမည်။

၂၃။ မူလစာချုပ် ၏ **စာချုပ်ရပ်စဲခြင်း** ခေါင်းစဉ်ရှိ အပိုဒ် ၂၈ ၊ အပိုဒ် ၂၉ နှင့် အပိုဒ် ၃၀ တို့အား ပယ်ဖျက်၍ အပိုဒ် ၂၆ ၊ အပိုဒ် ၂၇ နှင့် အပိုဒ် ၂၈ တို့အဖြစ် အောက်ပါစာပိုဒ်များဖြင့် အစားထိုးပြင်ဆင်ရမည် -

**စာချုပ်ရုပ်စဲခြင်း**

၂၆။ စာချုပ်ရုပ်စဲခြင်းနှင့် ပတ်သက်၍ အောက်ပါ အကြောင်းအရပ်များ တစ်ခုခု ဖြစ်ပေါ်လာပါက စာချုပ်ကို ရုပ်စဲခွင့်ရှိသည်-

(က) မလွန်ဆန်နိုင်သောဖြစ်ရပ်များကြောင့်ပျက်စီးဆုံးရှုံးသွား၍"အငှားချထားခြင်းခံရသူ" အနေဖြင့် လုပ်ငန်း ဆက်လက်ဆောင်ရွက်ရန်မဖြစ်နိုင်တော့ခြင်း၊

(ခ) သဘောတူစာချုပ်ပါ စည်းကမ်းချက် တစ်ရပ်ရပ်ကို "အငှားချထားခြင်းခံရသူ" မှ ခိုင်လုံသော ရည်ရွယ်ချက်ဖြင့် ဖောက်ဖျက်ကျူးလွန်ခြင်း ၊

(ဂ) နိုင်ငံတော်၏တည်ဆဲဥပဒေတစ်ရပ်ရပ်ကို"အငှားချထားခြင်းခံရသူ"မှဖောက်ဖျက်ကျူးလွန်ခြင်း၊

(ဃ) "အငှားချထားခြင်းခံရသူ" က လူမွဲအဖြစ် ခံယူသွားခြင်း၊

(င) စာချုပ်သက်တမ်းကုန်ဆုံးခြင်း၊

၂၇။ အထက်ပါ ကိစ္စရပ်များအနက် ကိစ္စရပ်တစ်ခုခုကြောင့် စာချုပ် ရုပ်စဲလိုပါက **စက်မှုဝန်ကြီး ဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့်ဘဏ္ဍာရေးဆိုင်ရာကော်မတီအစည်းအဝေး** သို့ တင်ပြခွင့်ပြုချက် ရရှိမှ သာ အကျိုးသက်ရောက်မှု ရှိစေရမည်။

၂၈။ စာချုပ်ရုပ်စဲခြင်းသည် စာချုပ်ဝင် နှစ်ဦးနှစ်ဖက်မှ စာချုပ်ပါတာဝန်ရှိမှုများအား အကြေအလည်ညှိနှိုင်း၍ပြီးပြတ် ရှင်းလင်းပြီးမှသာရုပ်စဲခြင်းပြီးမြောက်ရမည်။ ယင်းသို့ရှင်းလင်းပြီးပါက စာချုပ်ပါ ငှားရမ်းထားသောပစ္စည်းများ အားလုံးကို "အငှားချထားသူ" ၏ ပိုင်ဆိုင်မှုသို့ လက်ဝယ် ပြန်လည် အပ်နှံရောက်ရှိစေရမည်။

၂၇။ မူလစာချုပ် ၏ ပြန်လည်ဝင်ရောက်ပိုင်ခွင့် ခေါင်းစဉ်ရှိ အပိုဒ် ၃၀ ကို ပယ်ဖျက်၍ အပိုဒ် ၂၉ အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

**ပြန်လည်ဝင်ရောက်ပိုင်ခွင့်**

၂၉။ **"အငှားချထားခြင်းခံရသူ"** သည် စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် (သို့) လိုက်နာရန်ပျက်ကွက်ခြင်းကြောင့် **"အငှားချထားသူ"**က ယင်းကဲ့သို့ ပျက်ကွက်မှုများကို ပြုပြင်ရန် (သို့) လိုက်နာရန် **"အငှားချထားခြင်းခံရသူ"** သို့ အကြောင်းကြားစာ ပေးပို့ပြီးနောက် အကြောင်းကြားစာပါ ကာလအတွင်း လိုက်နာမှုမရှိပါက သက်ဆိုင်ရာ လုပ်ထုံးလုပ်နည်းများနှင့်အညီ "အငှားချထားသူ"သည် အငှားချထားသည့် စက်ရုံကို ပြန်လည်ဝင်ရောက်လက်ဝယ်ရယူခွင့်ရှိသည်။ သို့ရာတွင် ယင်းသို့ဝင်ရောက်၍လက်ရောက် ရယူခြင်းသည် "အငှားချထားသူ" က "အငှားချထားခြင်းခံရသူ" ထံမှ ရရန်ရှိသော ငှားရမ်းခ(သို့)ပျက်စီးဆုံးရှုံးမှုအတွက်လျော်ကြေးတောင်းဆိုခွင့်ကိုထိခိုက်ခြင်းမရှိစေရ။

၂၅။ မူလစာချုပ် ၏အပိုဒ် ၃၂၊ ၃၃ နှင့် ၃၄ တို့အားပယ်ဖျက်၍ အောက်ပါအပိုဒ် ၃၀၊ ၃၁၊ ၃၂၊ ၃၃၊ ၃၄ နှင့် ၃၅ တို့ အဖြစ်ပြောင်းလဲ ပြင်ဆင်ရမည်။

၃၀။ ဤပြင်ဆင်ချက်သဘောတူစာချုပ်သည် ၂၀၁၅ ခုနှစ်၊ လ( )ရက်နေ့ မှစ၍ အကျိုးသက်ရောက်မှုရှိစေရမည်။

၃၁။ ဤပြင်ဆင်ချက်သဘောတူစာချုပ်ပါ စည်းကမ်းချက်များမှအပ မူလစာချုပ်ပါ ကျန်စည်းကမ်းချက်များမှာ ပြောင်းလဲမှုမရှိဘဲ ဆက်လက်၍ အကျိုးသက်ရောက်မှုရှိစေရမည်။

၃၂။ ဤပြင်ဆင်ချက်သဘောတူစာချုပ်တွင်ပါရှိသော မြေပုံနှင့်နောက်ဆက်တွဲများသည် ဤစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်သည်။

၃၃။ ဤပြင်ဆင်ချက် သဘောတူစာချုပ်တွင်ပါရှိသော မြေပုံနှင့် နောက်ဆက်တွဲများသည် မူလစာချုပ်၏တစ်စိတ်တစ်ဒေသဖြစ်သည်။

၃၄။ ဤပြင်ဆင်ချက် သဘောတူစာချုပ်သည် နိုင်ငံတော်မူဝါဒအရ ပြင်ဆင်ရန် လိုအပ်ပါက နှစ်ဦးနှစ်ဖက် ညှိနှိုင်းပြင်ဆင်ချုပ်ဆိုနိုင်သည်။

၃၅။ ဤပြင်ဆင်ချက် သဘောတူစာချုပ်အား ၂၀၁၅ ခုနှစ်၊ လ( )ရက်နေ့တွင် "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ" တို့ အောက်ပါအသိသက်သေများ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည် -

**အငှားချထားသူ(ကိုယ်စား)**
(ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း)

ဇော်ဟိန်း
ဦးဆောင်ညွှန်ကြားရေးမှူး

**အငှားချထားခြင်းခံရသူ(ကိုယ်စား)**
(Manadalay Golden Friend Mining Co.,Ltd )

ဇော်ဝင်း
အုပ်ချုပ်မှုဒါရိုက်တာ
၉/မရမ(နိုင်)၀၀၀၆၂၄

အသိသက်သေများ

ထွန်းမြင့်
ညွှန်ကြားရေးမှူး
စီမံရေးဌာန

ခင်အောင်
ဒါရိုက်တာ
၁၂/စခန(နိုင်)၀၆၄၂၈၆

ကန့်သတ်

စိုးစိုးအေး
ညွှန်ကြားရေးမှူး
ထုတ်လုပ်ရေးဌာန

ခင်မြတ်မွန်
ညွှန်ကြားရေးမှူး
ဘဏ္ဍာရေးဌာန

ခင်ဇော်ဝင်း
ညွှန်ကြားရေးမှူး
ဈေးကွက်ရှာဖွေရေးဌာန

စိုးသန်း
ညွှန်ကြားရေးမှူး
အုပ်ချုပ်ရေးဌာန

ဦးကျော်စိုး
အထွေထွေမန်နေဂျာ
မြင်းနှင့်သိုးမွေးမြူရေးစခန်း(ရန်ပယ်)

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပြည်ထောင်စုရှေ့နေချုပ်ရုံး

နေပြည်တော်

စာအမှတ်၊ ၂(၅)၃ - ၂၄/ နပတ(၂၃၃ )

ရက်စွဲ၊ ၂၀၁၃ ခုနှစ် ၊ မတ်လ ၂၉ ရက်

အကြောင်းအရာ။ ဆေးဝါးနှင့် စားသောက်ကုန်လုပ်ငန်းလက်အောက်ရှိ ဖြောင်းဖူးထုတ်ကုန်ပစ္စည်းစက်ရုံခွဲ (ရန်ပယ်) နှင့် ဖြောင်းဖူးစိုက်ကွင်း ၊မော်လမြိုင်အမှတ်(၄) အရက် ချက်စက်ရုံခွဲနှင့် ဝန်ထမ်းအိမ်ရာတို့ကို ကုမ္ပဏီများသို့ ငှားရမ်းချုပ်ဆိုမည့် ငှားရမ်းသည့် သဘောတူစာချုပ် (မူကြမ်း) (၂)ရပ် အပေါ် သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည် ညွှန်း ချက် ။ စက်မှုဝန်ကြီးဌာန၏ ၁၃-၃-၂၀၁၃ ရက်စွဲပါစာအမှတ်၊ ၄၀-စမ(၂) ၂၀၁၂-၂၀၁၃ (၄၆၉၅)

၁။ စက်မှုဝန်ကြီးဌာန ၊ဆေးဝါးနှင့် စားသောက်ကုန်လုပ်ငန်းလက်အောက်ရှိ ဖြောင်းဖူးထုတ်ကုန်ပစ္စည်း စက်ရုံခွဲ(ရန်ပယ်) နှင့် ဖြောင်းဖူးစိုက်ကွင်းတို့ကို Myat Eaidray Group of Comparies သို့ လည်းကောင်း၊ ၊မော်လမြိုင် အမှတ်(၄) အရက်ချက်စက်ရုံခွဲနှင့် ဝန်ထမ်းအိမ်ရာတို့ကို Mandalay Golden Friend Mining Co,Ltd. သို့လည်းကောင်း နှစ်ရှည် ငှားရမ်းချုပ်ဆိုမည့် ငှားရမ်းသည့် သဘောတူစာချုပ် (မူကြမ်း) ၂ ရပ် အပေါ် သဘောထားမှတ်ချက်ပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံလာသော ကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းစာတွင် စက်မှုဝန်ကြီးဌာန၊ ဆေးဝါးနှင့် စားသောက်ကုန်လုပ်ငန်းလက်အောက်ရှိ အထက်ဖော်ပြပါစက်ရုံခွဲများကို နိုင်ငံတော်သမ္မတရုံး၏ သဘောတူညီခွင့်ပြုချက်အရ နှစ်ရှည်ငှားရမ်းရန် စီစဉ်ဆောင်ရွက်လျက်ရှိကြောင်း ဖော်ပြထားသည်ကိုတွေ့ရှိပါသည်။ ရည်ညွှန်းစာနှင့် အတူပူးတွဲပေးပို့လာသော စာချုပ်(မူကြမ်း) ၂ ရပ် သည် ကုမ္ပဏီ ကွဲပြားပြီး အငှားချ

သို့မှတ်

ထားမည့်စက်ရုံခွဲနှင့် မြေတည်နေရာတို့မတူညီသော်လည်း စာချုပ်ပုံစံတစ်မျိုး တည်းပြုစုထားသဖြင့် တစ်ပေါင်းတည်းစိစစ်၍ ပြန်ကြားအပ်ပါသည်။

၃။ ရည်ညွှန်းစာနှင့် အတူပူးတွဲပေးပို့လာသော စာချုပ်(မူကြမ်း) ၂ရပ် ကို ဥပဒေရှုထောင့်မှလေ့လာ စိစစ် ပြီးအောက်ပါအတိုင်းတစ်ပေါင်းတည်း သုံးသပ် အကြံပြုအပ်ပါသည်-

(က) စာချုပ်(မူကြမ်း) များ အပိုဒ် ၂ ၏ ပထမဆုံးအပိုဒ်မှာ အငှားချထားသူ၏ တာဝန်၊ လုပ်ပိုင်ခွင့်ဖြစ်၍ အပိုဒ် ၁၄ သို့ ပြောင်းရွှေ့ဖော်ပြသင့်ပါသည်၊

(ခ) Myat Eaidray Group of Comparies နှင့်ချုပ်ဆိုမည့် စာချုပ်(မူကြမ်း) အပိုဒ်၂ ၊ အပိုဒ် ၅ နှင့် အပိုဒ် ၁၄(က) တို့၌ စာချုပ်(မူကြမ်း) နောက်ဆက်တွဲ အမှတ်စဉ်များကို ရည်ညွှန်းဖော်ပြထားပါသည်။ သို့ရာတွင် စာချုပ်(မူကြမ်း) ၌ စာရွက်စာတမ်းများပူးတွဲပါရှိသော်လည်း နောက်ဆက်တွဲများဟု အမှတ်စဉ် တပ်ရည်ညွှန်းဖော်ပြထားခြင်းမရှိသဖြင့် ဌာနကပြန်လည်စိစစ်ရန်ဖြစ်ပါသည်။ ထို့အပြင် စာချုပ်(မူကြမ်း) အပိုဒ်၂(ဂ) တွင်ရည်ညွှန်းထားသော အငှားချထားမည့် တည်နေရာပြမြေပုံနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာမြေစာရင်း ဦးစီးဌာနက တရားဝင်ရေးဆွဲသော မြေပုံဖြစ်ရန်လိုအပ်ပါသည်၊

(ဂ) Mandalay Golden Friend Mining Co,Ltd.နှင့်ချုပ်ဆိုမည့် စာချုပ်(မူကြမ်း) အပိုဒ်၂(ဂ) တွင် နေရာပြမြေပုံကို နောက်ဆက်တွဲ(က) ဟု ရည်ညွှန်းထားပါသည်။ သို့ရာတွင် မြေနှင့်စပ်လျဉ်း၍ စာချုပ်(မူကြမ်း) တွင် မြေပုံအပါအဝင်စာရွက်စာတမ်းများပူးတွဲပါရှိသော် လည်းရည်ညွှန်းဖော်ပြထားခြင်းမရှိပါသဖြင့် ဌာနကပြန်လည်စိစစ်ရန်ဖြစ်ပါ သည်၊

(ဃ) စာချုပ်(မူကြမ်း) များအပိုဒ် ၃ ငှားရမ်းမည့်အချိန်ကာလနှင့် အပိုဒ် ၁၉ စာချုပ်သက်တမ်းတိုးခြင်းတွင် သက်တမ်းတိုးခြင်းနှင့် စပ်လျဉ်း၍ သက်တမ်းတိုး

သို့၄က်

တစ်ကြိမ်လျှင်မည်မျှကာလဖြင့် အကြိမ်မည်မျှတိုးနိုင်ကြောင်း ဖော်ပြပါရှိခြင်း မရှိ သဖြင့် စာချုပ်ဝင် နှစ်ဖက်ညှိနှိုင်းဖော်ပြသင့်ပါသည်၊

(င) စာချုပ်(မူကြမ်း)များအပိုဒ် ၇၊ အပိုဒ်ခွဲ(ဂ)တွင် ဝန်ထမ်းရေးရာကိစ္စရပ်များကို စီမံခန့်ခွဲရေးအဖွဲ့မှ တာဝန်ယူဆောင်ရွက်ရမည်ဟု ဖော်ပြထားသော်လည်း အဆိုပါအဖွဲ့၊ ဖွဲ့စည်းမှုနှင့်စပ်လျဉ်း၍ စာချုပ် (မူကြမ်း) ၌ ဖော်ပြထားခြင်း မရှိသဖြင့် ဌာနမှပြန်လည်စိစစ်ဖော်ပြသင့်ပါသည်၊

(စ) စာချုပ်(မူကြမ်း)များအပိုဒ် ၁၁ တွင် "------(၃)လအတွက် ငှားရမ်းခကျသင့် ငွေကျပ်×××× ကို ငှားရမ်းသည့် ပထမလအတွင်း ပေးသွင်းရမည်"ဟူသော ဖော်ပြချက်မှာရှင်းလင်းမှုမရှိကြောင်းတွေ့ရပါသည်။ (၃) လအတွက်ငှားရမ်းခ များကို ၃လလျှင်တစ်ကြိမ် မည်သည့်သက်မှတ်ရက်၊ သတ်မှတ်ကာလအတွင်း ပေးသွင်းရမည်ဟူ၍ဖော်ပြပါက ပိုမိုရှင်းလင်းမည်ဖြစ်ပါသည်။ ဌာန၏ လိုအပ်ချက်နှင့် အညီ သတ်မှတ်ဖော်ပြရန်ဖြစ်ပါသည်။

(ဆ) စာချုပ် (မူကြမ်း) များအပိုဒ် ၁၄၊ အပိုဒ်ခွဲ(ဃ)တွင် "စက်ရုံငှားရမ်းချိန်တွင် ကျန်ရှိသည့်ကုန်ကြမ်းများနှင့် ပတ်သက်၍ " ဟု ဖော်ပြထားရာ အဆိုပါ လက်ကျန်ရှိသည့် ကုန်ကြမ်းများသည် စက်ရုံငှားရမ်းချိန်တွင် အမှန်တကယ် ရှိသော လက်ကျန်ကုန်ကြမ်းများဖြစ်ရန်လိုအပ်ပါ၍ ဌာနမှစိစစ်သင့်ပါသည်။

(ဇ) စာချုပ်(မူကြမ်း)များတွင် ရင်းနှီးမြှုပ်နှံမှုပမာဏဖော်ပြထားခြင်းမရှိ၍ ဌာန၏ လုပ်ငန်းလိုအပ်ချက်နှင့်အညီ ဖော်ပြရန်သင့် မသင့် စိစစ်ရန်လိုအပ်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း) များတွင် စာပိုဒ်များကို အစီစဉ်တကျဖော်ပြရန် လိုအပ်ပါ သည်၊

(ည) လိုအပ်သောနေရာများ၌ မင်နီဖြင့်ပြင်ဆင်ပေးလိုက်ပါသည်၊

<u>လို့မှတ်</u>

၅။ တံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၉ အရ တံဆိပ်ခေါင်းခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်မရရှိသေးလျှင် တံဆိပ်ခေါင်းအက်ဥပဒေအရ ကျသင့်သောတံဆိပ်ခေါင်းခွန်ကို မြေအငှားချထားခြင်းခံရသူများက ထမ်းဆောင်ရမည်ဖြစ်ပါသည်။

၆။ ဤစာချုပ်(မူကြမ်း)များကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီဥပဒေကြောင်းအရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့်မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာ ကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းရန် အကြံပြုပါသည်။

၇။ Myat Eaidray Group of Comparies နှင့် Mandalay Golden Friend Mining Co, Ltd. တို့သည် ဥပဒေအရတရား ဝင်ဖွဲ့စည်းထားသည့် ကုမ္ပဏီများ ဟုတ်၊ မဟုတ် စာချုပ်ပါလုပ်ငန်းများကို လုပ်ကိုင်နိုင်ခွင့်နှင့် လုပ်ကိုင်နိုင်စွမ်းရှိ၊ မရှိ ငွေကြေးအင်အား ပြည့်စုံမှုရှိ၊ မရှိ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူများသည် တရားဝင်လွှဲအပ်ခြင်းခံရသူများဟုတ် မဟုတ် စသည်တို့ကို ကြိုတင် စိစစ်ရန်လိုအပ်မည်ဖြစ်ပါသည်။

၈။ စာချုပ် (မူကြမ်း)များကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ မိတ္တူ (၃) စောင်စီပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၂၉/၃/၂၀၁၃

( ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)

( မေသီလင်း၊ ညွှန်ကြားရေးမှူး )

စက်မှုဝန်ကြီးဌာန

လိုမှတ်

# စက်မှုဝန်ကြီးဌာန

## ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း

နှင့်

## MANDALAY GOLDEN FRIEND MINING COMPANY LIMITED.

တို့

ချုပ်ဆိုသော

## မြင်းနှင့်သိုးမွေးမြူရေးစခန်း လက်အောက်ရှိ
## မော်လမြိုင်အမှတ်(၄)အရက်ချက်စက်ရုံခွဲ၊ရေခဲစက်ဝန်ထမ်း
## အိမ်ရာနှင့် မြေ၊ အဆောက်အဦ၊ စက်ပစ္စည်းများ

အား

## ငှားရမ်းသည့်သဘောတူစာချုပ်

ရက်စွဲ ၊ ၂၀၁၃ ခုနှစ်၊ ဩဂုတ်လ (၃၀) ရက်

ကန့်သတ်

စက်မှုဝန်ကြီးဌာန

ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း

နှင့်

Mandalay Golden Friend Mining Co., Ltd.

တို့၏

မော်လမြိုင်အမှတ်(၄)အရက်ချက်စက်ရုံခွဲ၊ ရေခဲစက်ဝန်ထမ်းအိမ်ရာ နှင့် မြေ၊ အဆောက်အဦ၊ စက်ပစ္စည်းများအား

ငှားရမ်းသည့် သဘောတူစာချုပ်

ဤငှားရမ်းခြင်း သဘောတူစာချုပ် (နောင်တွင် "သဘောတူစာချုပ်" ဟုခေါ်တွင်မည်) ကို နေပြည်တော်တွင် ၂၀၁၃ခုနှစ်၊ဩဂုတ်လ(၃၀)ရက်နေ့၌ ဒေါက်တာချိုဝင်းမော်၊ ဦးဆောင်ညွှန်ကြားရေးမှူး ကိုယ်စားပြုသော"ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း"၊ စက်မှုဝန်ကြီးဌာန (နောင်တွင်'အငှားချထားသူ' ဟုခေါ်တွင်စေပြီး ယင်းဖော်ပြချက်တွင် ၎င်းအားဆက်ခံသူများ၊ ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်။)"က တစ်ဖက်

နှင့်

ရန်ကုန်တိုင်းဒေသကြီး Room(A-4), No.295, Myoma Appartment Myoma Kyaung Street, Dagon Township ၊ ဦးဇော်ဝင်း (၉/မရမ(နိုင်)၀၀၁၆၂၄) Managing Director ကိုယ်စားပြုသော "Mandalay Golden Friend Mining Co., Ltd", (နောင်တွင် "အငှားချထားခြင်းခံရသူ") ဟု ခေါ်တွင်စေပြီး၊ ယင်းစကားရပ်တွင် ၎င်းအားဆက်ခံသူများ တရားဝင် ကိုယ်စားလှယ်များနှင့် ဥပဒေအရလွှဲအပ်ခြင်း ခံရသူများပါဝင်သည်။) က အခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်းချက်များကို သတ်မှတ်၍ နှစ်ဦးသဘောတူစာချုပ် ချုပ်ဆိုကြပါသည်။

## အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း

၁။ "အငှားချထားသူ" သည် နောက်ဆက်တွဲများတွင် အသေးစိတ် ဖော်ပြထားသော စက်ရုံ ၊ မြေ ၊ အဆောက်အဦ နှင့် စက်ပစ္စည်းများကို ပိုင်ဆိုင်သူဖြစ်ပါသည်။ "အငှားချထားခြင်းခံရသူ"သည် စာချုပ်ကို အကောင်အထည် ဖော်ဆောင်ရွက်ရန် ငွေကြေးပြည့်စုံပြီး စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်ခွင့် ရှိသူ ဖြစ်သည်။ စာချုပ်တွင် လက်မှတ် ရေးထိုးမည့်သူများသည် ဤစာချုပ်တွင် လက်မှတ် ရေးထိုးရန် အခွင့်အာဏာရှိသူ ဖြစ်ကြောင်းကို အသီးသီး အာမခံကြပါသည်။

အငှားချထားမည့်ပစ္စည်းများ

၂။ "အငှားချထားခြင်းခံရသူ" သည် "အငှားချထားသူ" ပိုင်စက်ရုံ၊ မြေ၊အဆောက်အဦနှင့် စက်ပစ္စည်းများကို ငှားရမ်း၍ အဆင့်မြင့် ပြည်တွင်းဖြစ်အရက်များထုတ်လုပ်သည့် ပုလင်းသွင်းလုပ်ငန်းများကို ဆောင်ရွက်ပြီး ဖြန့်ဖြူးခြင်း၊ ရောင်းချခြင်းလုပ်ငန်းများ ဆောင်ရွက်မည်ဖြစ်ပါသည်-

(က) စက်ရုံအမည်နှင့် တည်နေရာ - နတ်ကျွန်းရပ်၊ မုပွန်ရပ်ကွက်၊ မော်လမြိုင်မြို့၊ မွန်ပြည်နယ်။ (စက်ရုံ)

- ၁၈၊ ဇင်ယော်လမ်း၊ ကွင်းရပ်ရပ်ကွက်၊ မော်လမြိုင်မြို့၊ မွန်ပြည်နယ်။ (ရေခဲစက်ဝန်ထမ်းအိမ်ရာ)

(ခ) မြေ(ဧက) - စက်ရုံမြေဧရိယာ ၆.၆၉၄ ဧက
- ရေခဲစက်ဝန်ထမ်းအိမ်ရာ ၄.၇၇၄ ဧက
စုစုပေါင်း ၁၁.၄၆၈ ဧက

(ဂ) တည်နေရာပြမြေပုံ - နောက်ဆက်တွဲ (က)
(ဃ) အဆောက်အဦ - နောက်ဆက်တွဲ ( ခ )
(င) စက်နှင့်စက်ပစ္စည်း - နောက်ဆက်တွဲ ( ဂ )
(စ) ဓါတ်ခွဲခန်းသုံးပစ္စည်း - နောက်ဆက်တွဲ (ဃ)
(ဆ) ပရိဘောဂနှင့်ရုံးသုံးပစ္စည်း - နောက်ဆက်တွဲ ( င )
(ဇ) အိပ်ဆောင်သုံးပစ္စည်း - နောက်ဆက်တွဲ ( စ )
(ဈ) မော်တော်ယာဥ်စာရင်း - နောက်ဆက်တွဲ (ဆ)
(ည) ဝန်ထမ်းအင်အားစာရင်း - နောက်ဆက်တွဲ ( ဇ )
(ဋ) ကုန်ချောလက်ကျန်စာရင်း - နောက်ဆက်တွဲ (ဈ)

ငှားရမ်းမည့်အချိန်ကာလ

၃။ ငှားရမ်းမည့်အချိန်ကာလမှာ ကနဦး(၁၀)နှစ် နှင့် သက်တမ်းတိုး(၅)နှစ်(၂)ကြိမ် ဖြစ်၍ ပထမ (၁၀)နှစ် စာချုပ်သက်တမ်းသည် ၂၀၁၃ ခုနှစ်၊စက်တင်ဘာလ(၁)ရက်နေ့မှ ၂၀၂၃ ခုနှစ်ဩဂုတ်လ(၃၁) ရက်နေ့အထိဖြစ်ပါသည်။သက်တမ်းတိုး (၅) နှစ် (၂) ကြိမ် ဆက်လက်ဆောင်ရွက်ခြင်းအား စာချုပ်ဝင်နှစ်ဦးနှစ်ဖက်ညှိနှိုင်း သဘောတူညီချက်နှင့် စက်မှုဝန်ကြီးဌာန၏ အတည်ပြုချက်ဖြင့် ဆောင်ရွက်မည်ဖြစ်ပါသည်။

စာချုပ်သက်တမ်း

၄။ စာချုပ်သက်တမ်းမှာ ကနဦး(၁၀)နှစ် နှင့် သက်တမ်းတိုး(၅)နှစ်(၂)ကြိမ် ဖြစ်၍ ပထမ (၁၀)နှစ် စာချုပ်သက်တမ်း သည် ၂၀၁၃ ခုနှစ်၊စက်တင်ဘာလ(၁)ရက်နေ့မှ ၂၀၂၃ ခုနှစ်ဩဂုတ်လ(၃၁) ရက်နေ့ အထိ ဖြစ်ပါသည်။

ကန့်သတ်

(ဆ) ဝန်ထမ်းများ၏လူမှုဖူလုံရေးအကျိုးခံစားခွင့်ရရှိရေးအတွက် "အငှားချထားခြင်းခံရသူ" မှ တာဝန်ယူရမည်။

(ဇ) ဝန်ထမ်းများ၏သက်သာချောင်ချိရေးကိစ္စများကို "အငှားချထားခြင်းခံရသူ" မှ တာဝန်ယူရမည်။

(ဈ) ဝန်ထမ်းများအလုပ်ခွင်တွင် မတော်တဆထိခိုက်မှုဖြစ်ပွားပါက "အငှားချထားခြင်းခံရသူ" မှ တာဝန်ယူဆောင်ရွက်ပေးရမည်။

(ည) စက်ရုံလွှဲပြောင်းသည့်အခါပါရှိသော ဝန်ထမ်းများအနက် ရာထူးမှ နုတ်ထွက်လိုခြင်း၊ နှစ်ပြည့် (သို့မဟုတ်) သက်ပြည့်အငြိမ်းစားယူခြင်းများရှိပါက "အငှားချထားသူ" ထံတင်ပြဆောင်ရွက်ရမည်။

(ဋ) ဝန်ထမ်းအိမ်ရာတွင် လက်ရှိနေထိုင်လျက်ရှိသော ဝန်ထမ်းများအား ဆက်လက်နေထိုင်ခွင့်ပြုရမည်။ဝန်ထမ်းအိမ်ရာများ၏ ပြုပြင်ထိန်းသိမ်းရေးလုပ်ငန်းများကို "အငှားချထားခြင်းခံရသူ" က တာဝန်ယူဆောင်ရွက်ရမည်။

၇။ လွှဲပြောင်းပေးမည့် ဝန်ထမ်းများနှင့်ပတ်သက်၍ "အငှားချထားသူ"မှ အောက်ပါစည်းကမ်းချက်များနှင့်အညီလိုက်နာဆောင်ရွက်ရမည်-

(က) ဝန်ထမ်းအား ပြောင်းရွှေ့တာဝန်ထမ်းဆောင်ခြင်း ဆိုင်ရာကိစ္စရပ်များအား "အငှားချထားသူ"၏ စီမံမှုဖြင့်သာ ဆောင်ရွက်ရမည်။

(ခ) ဝန်ထမ်းများရာထူးအနွယ်(Lien)ဆက်လက်ထိန်းသိမ်းထားပြီးရာထူးတိုးမြှင့်ရန် အချိန်ကျရောက်သည့်အခါ ရာထူးတိုးမြှင့်ခြင်းကိစ္စများကို "အငှားချထားသူ" မှ ဆောင်ရွက်ရမည်။

(ဂ) "အငှားချထားခြင်းခံရသူ" ဆောင်ရွက်မည့်ကိစ္စရပ်များမှအပ ကျန်ဝန်ထမ်းရေးရာကိစ္စရပ်များနှင့် ပတ်သက်၍ ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း၊ ဦးဆောင်ညွှန်ကြားရေးမှူး၊ ဥက္ကဋ္ဌအဖြစ် ဆောင်ရွက်သည့် စီမံခန့်ခွဲရေးအဖွဲ့မှ တာဝန်ယူ ဆောင်ရွက်ရမည်။

၈။ လွှဲပြောင်းပေးမည့် ဝန်ထမ်းများနှင့်ပတ်သက်၍ အောက်ပါအချက်များအား "အငှားချထားခြင်းခံရသူ" နှင့် "အငှားချထားသူ"တို့မှ နှစ်ဦးနှစ်ဖက်ညှိနှိုင်းဆောင်ရွက်ရမည်-

(က) ဝန်ထမ်းများရာထူးတိုးခြင်း ၊အရေးယူအပြစ်ပေးခြင်းနှင့်ဝန်ထမ်းရေးရာ ကိစ္စရပ်များအား နိုင်ငံတော်မှ သတ်မှတ်ထားသည့် ဝန်ထမ်းစည်းမျဉ်းများနှင့်အညီ နှစ်ဦးနှစ်ဖက်မှ ညှိနှိုင်းဆောင်ရွက်ရမည်။

(ခ) ဝန်ထမ်းရေးရာကိစ္စရပ်များနှင့်ပတ်သက်၍ ဝန်ထမ်းများနစ်နာမှုမရှိစေရေးအတွက် နှစ်ဦးနှစ်ဖက်မှ ညှိနှိုင်းဆောင်ရွက်ရမည်။

<u>ကန့်သတ်</u>

### ငှားရမ်းခနှုန်းထားများ

၉။ ငှားရမ်းခနှုန်းထားမှာ အထက်အပိုဒ်(၂)ပါ စက်ရုံ၊ မြေ၊ အဆောက်အဦများ၊ စက်ပစ္စည်းကိရိယာများ၊ရုံးသုံးပစ္စည်းစက်ကိရိယာနှင့်အခြားပစ္စည်းများအပါအဝင် မော်လမြိုင်အမှတ်(၄)အရက်ချက်စက်ရုံနှင့်ရေခဲစက်ဝန်ထမ်းအိမ်ရာအတွက် အခြေခံငှားရမ်းခအဖြစ် တစ်နှစ်လျှင် ကျပ် ၆၀.၀၀၀ သန်း (ကျပ်ခြောက်ဆယ်သန်းတိတိ) ဖြစ်ပါသည်။ တိုးချဲ့ဆောင်ရွက်သည့် လုပ်ငန်းအပေါ်မူတည်၍ ငှားရမ်းခတိုးမြှင့်ပေးရန်ကိစ္စကို နှစ်ဖက် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၀။ နှစ်ဖက်သဘောတူညီချက်ဖြင့် ငှားရမ်းခ ပြင်ဆင်သတ်မှတ်ခြင်းကို နှစ်စဉ်ပြုလုပ်သွားမည်ဖြစ်ပြီး ယင်းပြင်ဆင်မှုကို **စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူ ရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာ ကော်မတီ အစည်းအဝေး** သို့ တင်ပြအတည်ပြုချက် ရယူဆောင်ရွက်ရမည်ဖြစ်သည်။

### ငှားရမ်းခပေးသွင်းခြင်း

၁၁။ **"အငှားချထားခြင်းခံရသူ"**သည်တစ်နှစ်လျှင် ငှားရမ်းခကျပ်(၆၀.၀၀၀)သန်းဖြစ်၍ (၃)လအတွက် ငှားရမ်းခကျသင့်ငွေကျပ်(၁၅.၀၀၀)သန်း(ကျပ်တစ်ဆယ့်ငါးသန်းတိတိ)ကို(၃)လလျှင်တစ်ကြိမ် ပထမလ၏ (၁၅)ရက်အတွင်း ပေးသွင်းရမည်။

၁၂။ **"အငှားချထားသူ"**နှင့်**"အငှားချထားခြင်းခံရသူ"**တို့သည်လိုအပ်ပါက(၃)လလျှင်တစ်ကြိမ်လုပ်ငန်းဆောင်ရွက်မှုအခြေအနေကိုပြန်လည်သုံးသပ်၍ စာချုပ်ဝင်နှစ်ဦးနှစ်ဖက် သဘောတူညီပါက ငှားရမ်းခပေးသွင်းမည့် အစီအစဉ်ကို **စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာ ကော်မတီအစည်းအဝေး** သို့တင်ပြ၍ ပြန်လည် ညှိနှိုင်းဆောင်ရွက်နိုင်သည်။

### နောက်ကျကြေး ပေးသွင်းခြင်း

၁၃။ **"အငှားချထားခြင်းခံရသူ"** သည် ငှားရမ်းသည့်နေ့မှစ၍ ပထမလ၏(၁၅)ရက်အတွင်း ပေးသွင်းရမည့် (၃)လအတွက်ငှားရမ်းခအား ပေးသွင်းရန် ပျက်ကွက်ပါက နောက်ကျကြေးအဖြစ် တစ်ရက်လျှင် ပေးသွင်းရမည့်ငွေ၏သုံးဆယ်ပုံတစ်ပုံကိုဒဏ်ကြေးအဖြစ်နောက်ကျသည့်ရက်အတိုင်းပေးဆောင်ရမည်။

### **"အငှားချထားခြင်းခံရသူ"**၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ

၁၄။ **"အငှားချထားခြင်းခံရသူ"**၏တာဝန်နှင့်လုပ်ပိုင်ခွင့်များမှာအောက်ပါအတိုင်းဖြစ်ပါ သည်-

(က) မြေ၊ အဆောက်အဦ၊ စက်ပစ္စည်းကိရိယာများ၊ ရုံးသုံးပစ္စည်းများ၊ ရုံးသုံးကိရိယာများ၊ အခြားပရိဘောဂများနှင့် ပတ်သက်၍ နောက်ဆက်တွဲ(က)(ခ)(ဂ)(ဃ)(င)(စ)နှင့်(ဆ) ပါအတိုင်း ငှားရမ်းဆောင်ရွက်ရမည်။

(ခ) စက်ရုံအားစတင်ငှားရမ်းသည့်အချိန်မှစ၍ စက်ရုံနှင့်ပတ်သက်သည့် ဌာနအလိုက်စာရွက်စာတမ်းများ၊ စာရင်းများအားလုံးအား စာရင်းစစ်အစစ်ဆေးခံနိုင်ရန်နှင့်အခြားလိုအပ်သည်များဆောင်ရွက်နိုင်ရန် စက်ရုံမငှားရမ်းမီ အချိန်ထိရှိသည့် အတိုင်းစနစ်တကျ ထိန်းသိမ်းဆောင်ရွက်ရမည်။

(ဂ) စက်ရုံအဆောက်အဦနှင့်စက်ပစ္စည်းများအားလိုအပ်သည့်ပြုပြင်ဆင်မွမ်းမံခြင်းများဆောင်ရွက်ရမည်။

(ဃ) လုပ်ငန်းများတိုးချဲ့ခြင်းနှင့်စက်ပစ္စည်းများထပ်မံတိုးချဲ့တပ်ဆင်ခြင်းများကို "အငှားချထားသူ" ၏ ခွင့်ပြုချက်ဖြင့်ဆောင်ရွက်ရမည်။

(င) အငှားချထားသည့်ပစ္စည်းအားလုံးကို လျော်ကန်သင့်မြတ်သောသတိဝီရိယဖြင့် ကောင်းမွန်စွာထိန်းသိမ်းထားရမည်။ လျှပ်စစ်ဓါတ်အားသုံးစွဲမှုကို တည်ဆဲဥပဒေစည်းမျဉ်းများနှင့်အညီ သုံးစွဲပြီးမီးဘေးကာကွယ်ရေး အစီအမံများ လုံလောက်စွာ ထားရှိရမည်။

(စ) "အငှားချထားသူ"၏ ကြိုတင်ခွင့်ပြုချက်မရှိဘဲ အဆောက်အဦပိုင်းဆိုင်ရာ ပုံစံပြောင်းလဲဆောက်လုပ်ခြင်း၊တိုးချဲ့ဆောက်လုပ်ခြင်းများ မပြုလုပ်ရ။

(ဆ) အငှားချထားသည့်ပစ္စည်းများကိုတစ်ဆင့်ငှားရမ်းခြင်း၊ပေါင်နှံခြင်း၊ရောင်းချခြင်း၊သို့မဟုတ်တနည်းနည်းဖြင့်လွှဲပြောင်းပေးခြင်း၊အသုံးပြုခွင့်ပေးခြင်း စသည်တို့ လုံးဝမပြုလုပ်ရ။

(ဇ) အငှားချထားသည့်စက်ရုံ၏ အခြေအနေကိုလည်းကောင်း၊ ထုတ်လုပ်ဖြန့်ဖြူးရောင်းချသည့်ပစ္စည်းများ၏ အရည်အသွေးကိုလည်းကောင်း၊ စစ်ဆေးရန်လိုအပ်ပါက "အငှားချထားသူ" က နည်းလမ်းတကျလုပ်ပိုင်ခွင့်ပေးအပ်သောကိုယ်စားလှယ်များကို ဝင်ရောက်ခွင့်ပြုရမည်။

(ဈ) အငှားချထားသည့်ပစ္စည်းများနှင့် ပတ်သက်၍ မြေခွန်မှအပ စည်ပင်သာယာခွန်၊အခြားအခွန်အခများ၊ ထုတ်လုပ်မှုနှင့်သက်ဆိုင်သည့် အခွန်အခအမျိုးမျိုးကို ကျခံပေးဆောင်ရမည်။

(ည) ဤသဘောတူစာချုပ် သက်တမ်းကုန်သည့်အခါ အငှားချစက်ရုံကို မူလငှားရမ်းစဉ်က အခြေအနေအတိုင်း ရှိနေစေရန် ပြုပြင် မွမ်းမံထိန်းသိမ်းထားရမည်။ သို့ရာတွင် အကျိုးအကြောင်းဆီလျော်မှုရှိသောပွန်းပဲ့ခြင်းများအတွက် ပြောင်းလဲမှုများကို ခွင့်ပြုလက်ခံနိုင်သည်။

(ဋ) သဘောတူ စာချုပ်သက်တမ်း ကုန်ဆုံးသည့်နေ့မှ (၃၀)ရက်အတွင်း အငှားချထားသည့်ပစ္စည်းအားလုံးကိုငှားရမ်းစဉ်အခြေအနေအတိုင်းအဖိုးစားနားမပါရှိဘဲ"အငှားချ ထားသူ" ၏ လက်ဝယ် အရောက် လွှဲပြောင်းပေးအပ်ရမည်။

(ဌ) အငှားချထားသည့်စက်ရုံတွင်တပ်ဆင်မှုများပုံစံပြောင်းလဲမှုနှင့် တိုးချဲ့မှုများ အားလုံးသည် ငှားရမ်းခြင်း စာချုပ်သက်တမ်း ကုန်ဆုံးသည့်အချိန်တွင် အခကြေးငွေ ပေးရန်မလိုဘဲ "အငှားချထားသူ" ပိုင်ပစ္စည်းများ အလိုအလျောက်ဖြစ်လာရမည်။ အကယ်၍မိမိတပ်ဆင်ထားသောပစ္စည်းအားအငှားချထားသည့် အဆောက်အဦလွှဲပြောင်းချိန်တွင် ပြန်လည်ဖြုတ်ယူသွားလိုပါကယင်းပစ္စည်းများအားတပ်ဆင်ခြင်းမပြုမီကတည်းက နှစ်ဖက်ညှိနှိုင်း အတည်ပြုချက် ရယူထားရမည်။ သို့ရာတွင် လေအေးပေးစက်များ၊လျှပ်စစ်ထုတ်စက်များနှင့် အခြားရွှေ့ပြောင်းနိုင်သည့် ပစ္စည်းများကိုမူ ထားခဲ့ရန်မလိုဘဲ ဖြုတ်ယူသွားနိုင်သည်။

(ဍ) စက်ရုံကိုလက်ခံသည့်နေ့တွင် စက်ရုံ၌ရှိသော စက်အရန်ပစ္စည်းများ၊ စက်သုံးဆီများနှင့် အခြားအထွေထွေပစ္စည်းများအစရှိသော ကုန်ခမ်းနိုင်သည့် မြေပြင်လက်ကျန် ပစ္စည်းများကို ဆက်လက်အသုံးပြုလိုပါက နှစ်ဖက်ညှိနှိုင်း၍ သတ်မှတ်ထားသည့် တန်ဖိုးဖြင့် ဝယ်ယူပြီး အသုံးပြုခွင့်ရှိသည်။

(ဎ) စက်ရုံငှားရမ်းချိန်တွင်လက်ကျန် ကျန်ရှိသော "နောက်ဆက်တွဲ (ဈ) " ပါပစ္စည်းများအား ယှဉ်တွဲဖော်ပြပါ အရေအတွက်နှင့် တန်ဖိုးများအတိုင်း "အငှားချထားခြင်းခံရသူ"မှ လွှဲပြောင်းဝယ်ယူရမည်။ကျသင့်တန်ဖိုးအား စာချုပ်ချုပ်ဆိုသည့်နေ့မှစ၍တစ်နှစ်အတွင်း အကြေ ပေးသွင်းရမည်။

(ဏ) ကုန်ချောပစ္စည်းများကို သတ်မှတ်စက်စွမ်းအားထက် မကျော်လွန်စေဘဲ ထုတ်လုပ်ခွင့်ရှိပြီး ပြင်ပဈေးကွက်တွင်မိမိကြိုက်နှစ်သက်သည့်ဈေးနှုန်းဖြင့်လွတ်လပ်စွာရောင်းချခွင့်၊သိုလှောင်ခွင့်၊ သယ်ယူခွင့်ရှိသည်။

(တ) စက်ရုံမှလက်ရှိ ထုတ်လုပ်နေသော ကုန်အမှတ်တံဆိပ်ကို ဆက်လက်အသုံးပြုပါက အရည်အသွေး ကျဆင်းမှုမရှိစေရန် စံချိန်စံညွှန်းနှင့် ကိုက်ညီသော ကုန်ကြမ်းများကို သတ်မှတ်ထားသော အချိုးအစားအတိုင်း အသုံးပြုထုတ်လုပ်ရမည်။

(ထ) မိမိကိုယ်ပိုင်ကုန်အမှတ်တံဆိပ်ဖြင့် ထုတ်လုပ်လိုက ထုတ်လုပ်ခွင့်ရှိသည်။ သို့ရာတွင် အဆိုပါ ကုန်အမှတ်တံဆိပ်ဖြင့် စပ်လျဉ်း၍ မူပိုင်အခွင့်အရေးများကို ချိုးဖောက်ကြောင်း တရားစွဲဆိုခံရလျှင် "အငှားချထားခြင်းခံရသူ" ၏ တာဝန်သာ ဖြစ်သည်။

(ဒ) စက်ရုံမှ မထုတ်လုပ်ဖူးသော ကုန်ပစ္စည်းအမယ်သစ်ကိုထုတ်လုပ်လိုပါက"အငှားချထားသူ" ၏ ကြိုတင်ခွင့်ပြုချက် ရရှိပြီးမှသာ ထုတ်လုပ်နိုင်ခွင့်ရှိသည်။

(ဓ) အငှားချထားသည့်စက်ရုံမှ ထွက်ရှိသောအခိုးအငွေ့များနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိ မြေထု၊ရေထု၊လေထုတို့ကို ညစ်ညမ်းမှုမဖြစ်အောင် စီမံဆောင်ရွက်ထားရမည်။ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာဥပဒေသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ရမည်။

<u>ကန့်သတ်</u>

(န) "အငှားချထားခြင်းခံရသူ" သည် ငှားရမ်းစက်ရုံနှင့် ပတ်သက်၍ ပတ်ဝန်းကျင်အတွက် အနှောင့်အယှက်ဖြစ်စေမည့် ဆူညံသံများ၊ အခြားအနှောင့်အယှက်ဖြစ်စေမည့် အန္တရာယ်ကို ကြိုတင်ကာကွယ် တားဆီးရမည်။ အကယ်၍ မလွဲမရှောင်သာဘဲဖြစ်ပွားပါက "အငှားချထားခြင်းခံရသူ" က ကိစ္စကျေနပ်ပြီးဆုံးသည့်တိုင်အောင် တာဝန်ယူဖြေရှင်း ဆောင်ရွက်ရမည်။

(ပ) အငှားချထားသည့်စက်ရုံတွင် ခွင့်ပြုထားသည့်လုပ်ငန်းမှအပ ဥပဒေနှင့်မညီညွတ်သောလုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ခြင်း မပြုရ။

(ဖ) "အငှားချထားခြင်းခံရသူ"မှ ဆောင်ရွက်မည့်လုပ်ငန်းအတွက် သက်ဆိုင်ရာ ဌာနဆိုင်ရာများ၏ လုပ်ငန်းဆောင်ရွက်ခွင့်ပြုမိန့် အထောက်အထားများ ထားရှိပြီး "အငှားချထားသူ" ထံ မိတ္တူတစ်စုံ အပ်နှံထားရမည်။

(ဗ) စက်ကိရိယာများအား အမှန်တကယ် ထုတ်လုပ်နိုင်သည့် သတ်မှတ် စက်စွမ်းအားထက် ကျော်လွန်ထုတ်လုပ်ရန်အသုံးမပြုရ၊ သတ်မှတ်ထားသည့်စက်ကြံခိုင်ရေးများ ပြုလုပ်ရန်အတွက်သင့်လျော်သော စက်ရပ်နားချိန်များ သတ်မှတ်ထားရမည်။

(ဘ) အငှားချထားသည့်စက်ရုံတွင် အသုံးပြုသော လျှပ်စစ်၊ ရေ၊ တယ်လီဖုန်းနှင့်ဆက်သွယ်ရေးဆိုင်ရာအသုံးပြုကြေးနှင့် အခွန်အခများအားသတ်မှတ်ရက် အတွင်းအချိန်မီ ပေးဆောင်ရမည်ဖြစ်ပြီး၊ ပေးဆောင်ထားသည့် ပြေစာ အထောက်အထား မိတ္တူများအား "အငှားချထားသူ" ထံ လစဉ်ပေးပို့ရမည်။

(မ) အငှားချထားသည့်စက်ရုံ၏ အုပ်ချုပ်မှုနှင့် ကုန်ထုတ်လုပ်မှုအတွက် လိုအပ်သည့် ဒီဇယ်ဆီ၊ ဓါတ်ဆီတို့အား "အငှားချထားခြင်းခံရသူ" ၏ အစီအမံဖြင့် စီစဉ်ဆောင်ရွက်ရမည်။

(ယ) အငှားချထားသည့်စက်ရုံ၏ ကုန်ထုတ်လုပ်မှုလုပ်ငန်းတွင် လိုအပ်သည့် သဘာဝဓါတ်ငွေ့အတွက် ကျသင့်ငွေအား စွမ်းအင်ဝန်ကြီးဌာန၏ သတ်မှတ်နှုန်းထားအတိုင်း ပေးချေရမည်။

(ရ) အငှားချထားသည့်စက်ရုံအတွက် အလုံးစုံအာမခံတို့ကို မြန်မာ့အာမခံလုပ်ငန်း ဥပဒေပါ ပြဋ္ဌာန်းချက်နှင့်အညီ ထားရှိရမည်ဖြစ်ပြီး၊ အာမခံသက်တမ်း ကျော်လွန်မှုမရှိရေး တာဝန်ယူဆောင်ရွက်ရမည်။

(လ) စက်ရုံရှိမော်တော်ယာဉ်များနှင့်ပတ်သက်၍ စက်သုံးဆီနှင့် ယာဉ်ပြုပြင်ထိန်းသိမ်းမှုများကို "အငှားချထားခြင်းခံရသူ"မှ တာဝန်ယူဆောင်ရွက်ရမည်။

(ဝ) ဝန်ထမ်းများအတွက် ပင်စင်ထည့်ဝင်ကြေးကို "အငှားချထားခြင်းခံရသူ"မှ ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်းသို့ လစဉ် ပေးသွင်းရမည်။

<u>ကန့်သတ်</u>

"အငှားချထားသူ"၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ

၁၅။ "အငှားချထားသူ"၏တာဝန်နှင့်လုပ်ပိုင်ခွင့်များမှာအောက်ပါအတိုင်းဖြစ်ပါ သည်-

(က) "အငှားချထားခြင်းခံရသူ" အား အငှားချထားသည့် ပစ္စည်းများကို အသုံးပြု၍ ကုန်ပစ္စည်းများ ထုတ်လုပ်ခွင့်ပေးရမည်။

(ခ) စက်ရုံတွင် တပ်ဆင်ထားပြီးသော လျှပ်စစ်၊ရေ၊ တယ်လီဖုန်းတို့ကို "အငှားချထားခြင်းခံရသူ"အား ဆက်လက်အသုံးပြုခွင့်ပြုရမည်။

(ဂ) အငှားချထားသည့်စက်ရုံ အခြေအနေများကိုလည်းကောင်း၊ ထုတ်လုပ်ဖြန့်ဖြူးရောင်းချသည့်ပစ္စည်းများကိုလည်းကောင်း၊ နည်းလမ်းတကျလုပ်ပိုင်ခွင့်ပေးအပ်သောကိုယ်စားလှယ်များစေလွှတ်၍စစ်ဆေးပိုင်ခွင့်ရှိသည်။

(ဃ) စက်ရုံအတွက်ကျသင့်သည့် မြေခွန်ကို ပေးဆောင်ရမည်။

(င) စက်ရုံတွင်အသုံးပြုသောလျှပ်စစ်၊ရေ၊တယ်လီဖုန်းနှင့်ဆက်သွယ်ရေးဆိုင်ရာ အသုံးပြုခကြေးနှင့် အခွန်အခများအား "အငှားချထားခြင်းခံရသူ"မှ လစဉ်အချိန်မီ ပေးဆောင်မှု ရှိ/မရှိ စိစစ်ရမည်။

(စ) အငှားချထားသည့်စက်ရုံ၏ ကုန်ထုတ်လုပ်မှုလုပ်ငန်းတွင် လိုအပ်သည့် သဘာဝဓါတ်ငွေ့များရရှိရေးအတွက် သက်ဆိုင်ရာဌာနများနှင့် ညှိနှိုင်းဆောင်ရွက်ပေးရမည်။

(ဆ) အငှားချထားသည့် စက်ရုံနှင့်သက်ဆိုင်သော အာမခံများ၏အာမခံသက်တမ်း ကျော်လွန်မှုမရှိစေရေး ကြပ်မတ်ဆောင်ရွက်ရမည်။

(ဇ) သဘာဝပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရေးအတွက် "အငှားချထားခြင်းခံရသူ" ၏ စီမံဆောင်ရွက်မှုများနှင့်ပတ်သက်၍ ပြည့်စုံလုံလောက်မှု ရှိ/မရှိ စိစစ်ရန်နှင့် လိုအပ်ချက်များရှိပါက အကြံပြုပေးရမည်။

စာချုပ်သက်တမ်းတိုးခြင်း

၁၆။ "အငှားချထားခြင်းခံရသူ" သည်ဤသဘောတူစာချုပ်သက်တမ်း ကုန်ဆုံးပြီးနောက် အငှားချထားသည့်စက်ရုံနှင့်မြေအဆောက်အဦပစ္စည်းများကိုသက်တမ်းတိုး (၅)နှစ်(၂)ကြိမ် ဆက်လက်ငှားရမ်းလိုပါက ငှားရမ်းခနှုန်းထားများကို ဖော်ပြလျက် စာချုပ်သက်တမ်း တိုးမြှင့်ပေးပါရန် "အငှားချထားသူ" ထံ စာချုပ်သက်တမ်းမကုန်ဆုံးမီ (၃)လ ကြိုတင်၍စာဖြင့် တင်ပြရမည်။ ထပ်မံငှားရမ်းမည့် ကာလအတွက် နှစ်စဉ် ငှားရမ်းခနှုန်းထားကို နှစ်ဦးနှစ်ဖက် ညှိနှိုင်းသတ်မှတ်ရမည်။ထိုသို့ သက်တမ်းတိုးမြှင့်ခြင်း၊ ငှားရမ်းခနှုန်းထားပြင်ဆင်ခြင်း တို့သည်စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာ ကော်မတီအစည်းအဝေး ၏ အတည်ပြုချက်ရရှိမှသာ အတည်ဖြစ်စေရမည်။

ကန့်သတ်

အငြင်းပွားမှုဖြေရှင်းခြင်း

၁၇။ ဤစာချုပ်နှင့်စပ်လျဉ်း၍ အငြင်းပွားမှု တစ်စုံတစ်ရာ ပေါ်ပေါက်ပါက ထိုအငြင်းပွားမှုကို ငြိမ်းချမ်းသောနည်းလမ်းဖြင့် နှစ်ဦးနှစ်ဖက်ဖြေရှင်းကြရမည်။ထိုကဲ့သို့ မဖြေရှင်းနိုင်ပါက ဥပဒေနှင့်အညီ သက်ဆိုင်ရာ စီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ ဆုံးဖြတ်ချက်ကို ခံယူရမည်။

သယံဇာတ ပစ္စည်းဆိုင်ရာကိစ္စ

၁၈။ ဤစာချုပ်၏ သက်တမ်းအတွင်း ယခုလုပ်ငန်း ဆောင်ရွက်သည့်မြေ၏ မြေပေါ်မြေအောက်မှ မမျှော်လင့်ဘဲဓါတ်သတ္တုအရင်းအမြစ်များ၊ ရေနံဓါတုဆိုင်ရာပစ္စည်းများ၊ သဘာဝသယံဇာတပစ္စည်းများ၊ ရှေးဟောင်းပစ္စည်းများ၊ ကျောက်မျက်ရတနာများအစရှိသည်တို့ တွေ့ရှိလျှင် ထိုပစ္စည်းများကို "အငှားချထားသူ"က ပိုင်ဆိုင်ရမည့်အပြင် "အငှားချထားသူ"သည် ထိုပစ္စည်းများကိုနိုင်ငံတော်အစိုးရအဖွဲ့အစည်းသို့လွှဲပြောင်းတင်ပြရမည်။"အငှားချထားသူ"သည် အဆိုပါသယံဇာတပစ္စည်းများကိုမည်သည့်အချိန်တွင် မဆို လွတ်လပ်စွာတူးဖော်ပိုင်ခွင့်ရှိစေရမည်။

ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း

၁၉။ "အငှားချထားခြင်းခံရသူ" သည် ဤသဘောတူစာချုပ်ပါ ငှားရမ်းခြင်း ကာလကုန်ဆုံးသည့် အခါဖြစ်စေ ငှားရမ်းခြင်း ရပ်စဲသည့်အခါဖြစ်စေ၊ ယင်းသို့ကုန်ဆုံးသည့်နေ့ (သို့မဟုတ်) ရပ်စဲသည့် နေ့မှ (၃၀)ရက်အတွင်း အငှားချထားသည့်စက်ရုံ၊မြေ၊အဆောက်အဦနှင့်စက်ကိရိယာများကို"အငှားချထားသူ" သို့ အဖိုးစားနားမပါဘဲ ကောင်းမွန်သောအနေအထားဖြင့် ပြန်လည် လွှဲပြောင်းပေးအပ်ရမည်။

မလွန်ဆန်နိုင်သည့် ဖြစ်ရပ်များ

၂၀။ မလွန်ဆန်နိုင်သောဖြစ်ရပ်များ ဆိုသည်မှာ သဘာဝအလျောက် ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး၊မီးဘေး၊ မြေငလျင်ဘေး စသည်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ် တားမြစ်ချက်များ တရားဥပဒေ စိုးမိုးရေးနှင့်ငြိမ်ဝပ်ပိပြားမှု ပယ်ဖျက်ခြင်း၊ စစ်ဖြစ်ခြင်း၊သပိတ်မှောက်ခြင်း စသည်တို့နှင့် ဘချုပ်ဝင်တစ်ဘက်ဘက်က လိုအပ်သော သတိ ဝီရိယ နှင့်ဆောင်ရွက်စေကာမူ မလွန်ဆန် မကျော်လွှား နိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး ယင်းဖြစ်ရပ်များ ကြောင့် ငှားရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင် "အငှားချထားခြင်းခံရသူ" သည် "အငှားချထားသူ" သို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေး တောင်းခံခွင့် မရှိစေရ။

၂၁။ ထိုသို့မလွန်ဆန်နိုင်သော ဖြစ်ရပ်များပေါ်ပေါက်ပါက ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့် အချိန်မှ ၁၄ (တစ်ဆယ့်လေး)ရက်အတွင်း "အငှားချထားခြင်းခံရသူ" သည် "အငှားချထားသူ" သို့ ချက်ချင်းစာဖြင့် ရေးသားအကြောင်းကြားရမည်။ "အငှားချထားသူ"ကလက်ခံအတည်ပြုလျှင်မလွန်ဆန်နိုင်သော ဖြစ်ရပ် ကြောင့်ပြီး စက်ရုံ၊ မြေ၊ အဆောက်အဦနှင့် စက်ပစ္စည်းများ ငှားရမ်းအသုံးပြုခွင့်နှင့် တိုက်ရိုက်သက်ဆိုင် သော ဖြတ်တောက်ကာလအပိုင်းအခြားအတွက် ငှားရမ်းခကို သက်သာခွင့်ပြုနိုင်သည်။

ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း

၂၂။ "အငှားချထားခြင်းခံရသူ"သည် ဆောက်လုပ်ထားသောအဆောက်အဦများနှင့် လုပ်ငန်းစဉ်စွန့်ပစ်ပစ္စည်းများကြောင့် ၎င်းတို့၏ ပတ်ဝန်းကျင်တစ်ဝိုက်တွင် ဘေးအန္တရာယ်ကျရောက်မှုနှင့် ညစ်ညမ်းမှုတို့မှ ကာကွယ်ရန်အတွက် လိုအပ်သော ကြိုတင် ပြင်ဆင်မှုများကို ပြုလုပ်ရမည်။ ထို့ပြင် လေထု၊ ရေထုနှင့် မြေထုများ ညစ်ညမ်းခြင်းနှင့် အခြားသောပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်ပျက်စီးဆုံးရှုံးခြင်းအား ကာကွယ်ထိန်းချုပ်ခြင်း လုပ်ငန်းများဆောင်ရွက်ရမည်။ ရေများသန့်စင်နိုင်သော စက်များတပ်ဆင်ပေးခြင်း၊ လေထုညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန် အခိုးအငွေ့နှင့် အညစ်အကြေးစွန့် အစိတ်အပိုင်းများကို လုံခြုံစွာ ထားရှိပေးခြင်းဖြင့် အခြားသောပတ်ဝန်းကျင် ဘေးအန္တရာယ်ကင်းရှင်းရေးဆိုင်ရာ လိုအပ်သော အကာအကွယ်အစီအစဉ်များ ဆောင်ရွက်ရမည်။ ထို့ပြင်လုပ်ငန်းဆောင်ရွက်မှုကြောင့် ပေါ်ပေါက်လာမည့် မည်သည့်လျော်ကြေးတောင်းဆိုမှုမျိုးကိုမဆို "အငှားချထားသူ" အပေါ်တွင် တာဝန်မရှိစေရ။

ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ

၂၃။ ဤသဘောတူစာချုပ်ပါ စည်းကမ်းသတ်မှတ်ချက်များအတိုင်း လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း သက်ဆိုင်ရာအစိုးရဌာန၊ အာဏာပိုင်အဖွဲ့အစည်းများထံမှ ရယူရန်လိုအပ်သော အတည်ပြုချက်များ၊ ခွင့်ပြုမိန့်များ ရရှိပြီးမှသာ လုပ်ငန်းများအကောင်အထည်ဖော် ဆောင်ရွက်ရန် သတ်မှတ်ပါသည်။

စာချုပ်အားပြန်လည်စေ့စပ်ညှိနှိုင်းခြင်း

၂၄။ ဤသဘောတူစာချုပ်တွင်ပါရှိသည့် စည်းကမ်းချက်များသည် အမှန်တကယ် အကောင်အထည်ဖော်ဆောင်ရွက်သည့်အခါ ကြိုတင်မမျှော်မှန်းနိုင်သည့် အခြေအနေ တစ်ရပ်ရပ်ကြောင့် ဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်လျှင် စာချုပ်ဝင်ပုဂ္ဂိုလ်များသည် နှစ်ဦးနှစ်ဖက် စေ့စပ်ညှိနှိုင်းပြီး စာချုပ်ပါစည်းကမ်းချက်များကို ပြန်လည်စေ့စပ်ညှိနှိုင်း ဆောင်ရွက်ရမည်။

စာချုပ်အကျိုးသက်ရောက်သည့်နေ့

၂၅။ ဤသဘောတူစာချုပ်သည် "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ"တို့ လက်မှတ်ရေးထိုးပြီးသည့် နေ့မှစ၍ အကျိုးသက်ရောက်မှုရှိစေရမည်။

စာချုပ်ပြင်ဆင်ခြင်း

၂၆။ ဤသဘောတူစာချုပ်ပါစည်းကမ်းများကို ပြင်ဆင်ခြင်း ၊ ပြောင်းလဲခြင်းနှင့် ထပ်မံဖြည့်စွက်ခြင်း ပြုလုပ်လိုပါက "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ"တို့၏ နှစ်ဦးနှစ်ဖက်တရားဝင်စာဖြင့် သဘောတူညီချက် နှင့် စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာကော်မတီ အစည်းအဝေး သို့ တင်ပြ၍ အတည်ပြုချက် ရယူဆောင်ရွက်နိုင်သည်။

ကန့်သတ်

၂၇။ "အငှားချထားခြင်းခံရသူ" မှ စက်ရုံငှားရမ်းရာတွင်စီးပွားရေးအရ တွက်ချေကိုက်မှု မရှိခြင်း၊ အခြားသောအဆင်မပြေမှုများရှိခြင်းကြောင့် နှစ်ဦးနှစ်ဖက် ပြန်လည်ညှိနှိုင်းဆွေးနွေးရန် (၃)လကြိုတင် အကြောင်းကြားရမည်။

စာချုပ်ရုပ်သိမ်းခြင်း

၂၈။ (က) စာချုပ်ရုပ်စဲခြင်းနှင့်ပတ်သက်၍ အောက်ပါ အကြောင်းအရပ်များ တစ်ခုခုဖြစ်ပေါ်လာပါက စာချုပ် ကို ရုပ်စဲခွင့်ရှိသည်-

(၁) မီးလောင်ခြင်း၊ ရေကြီးခြင်း၊ မြေငလျင်လှုပ်ခြင်းအစရှိသည့် မလွန်ဆန်နိုင်သောဖြစ်ရပ် များကြောင့် ဖြစ်စေ၊ အငှားချထားသည့် စက်ရုံရှိပစ္စည်းများ ပျက်စီးဆုံးရှုံးသွား၍ ဖြစ်စေ လုပ်ငန်း ဆက်လက်ဆောင်ရွက်ရန်မဖြစ်နိုင်တော့ခြင်း။

(၂) စာချုပ်ဝင် တစ်ဖက်ဖက်မှ သဘောတူစာချုပ်ပါ စည်းကမ်းတစ်ရပ်ရပ်ကို ဆောင်ရွက် ရန် ပျက်ကွက်ခြင်း၊

(၃) "အငှားချထားခြင်းခံရသူ" က လူမွဲအဖြစ် ခံယူသွားခြင်း၊

(၄) စာချုပ်သက်တမ်းကုန်ဆုံးခြင်း၊

(၅) နှစ်ဖက်သဘောတူ စာချုပ်ရုပ်စဲခြင်း။

(ခ) စာချုပ် သက်တမ်း မကုန်ဆုံးမီ စာချုပ်ရုပ်စဲလိုပါက ရုပ်စဲလိုပါကြောင်း ခိုင်လုံသော အကြောင်းပြချက်ဖော်ပြပြီး၊ စာချုပ်ဝင်တစ်ဖက်မှအခြားတစ်ဖက်သို့ (၃)လကြိုတင်အသိ ပေး၍ နှစ်ဖက်အကျိုးစီးပွားကို ထိခိုက်မှုမရှိစေရေး ညှိနှိုင်းသဘောတူညီမှု ယူရမည်။

၂၉။ အထက်ပါ ကိစ္စရပ်များအနက် ကိစ္စရပ်တစ်ခုခုကြောင့် စာချုပ်ရုပ်စဲလိုပါက စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့်ဘဏ္ဍာရေးဆိုင်ရာကော်မတီအစည်းအဝေး သို့ တင်ပြခွင့်ပြုချက် ရရှိမှ သာ အကျိုးသက်ရောက်မှု ရှိစေရမည်။

၃၀။ စာချုပ်ရုပ်စဲခြင်းသည် စာချုပ်ဝင်နှစ်ဦးနှစ်ဖက်မှ စာချုပ်ပါတာဝန်ရှိမှုများအား အကြေအလည် ညှိနှိုင်း၍ ပြီးပြတ်ရှင်းလင်းပြီးမှသာ ရုပ်စဲခြင်းပြီးမြောက်ရမည်။ ယင်းသို့ရှင်းလင်းပြီးပါက စာချုပ်ပါ ငှားရမ်းထားသောပစ္စည်းများအားလုံးကို "အငှားချထားသူ"၏ ပိုင်ဆိုင်မှုသို့ လက်ဝယ် ပြန်လည် အပ်နှံ ရောက်ရှိစေရမည်။

ကန့်သတ်

ပြန်လည်ဝင်ရောက်ပိုင်ခွင့်

၃၁။ "အငှားချထားခြင်းခံရသူ" သည် စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် (သို့) လိုက်နာရန်ပျက်ကွက်ခြင်းကြောင့် "အငှားချထားသူ"က ယင်းကဲ့သို့ ပျက်ကွက်မှုများကို ပြုပြင်ရန် (သို့) လိုက်နာရန် "အငှားချထားခြင်းခံရသူ" သို့ အကြောင်းကြားစာပေးပို့ပြီးနောက် အကြောင်းကြားစာပါ ကာလအတွင်းလိုက်နာမှုမရှိပါက "အငှားချထားသူ"သည် အငှားချထားသည့် စက်ရုံအဆောက်အဦ စက်ပစ္စည်းများနှင့်မြေကို ပြန်လည်ဝင်ရောက် လက်ဝယ်ရယူခွင့်ရှိသည်။ သို့ရာတွင်ယင်းသို့ ဝင်ရောက်၍ လက်ရောက်ရယူခြင်းသည် "အငှားချထားသူ" က "အငှားချထားခြင်းခံရသူ" ထံမှ ရရန်ရှိသော ငှားရမ်းခ(သို့) ပျက်စီးဆုံးရှုံးမှု အတွက် လျော်ကြေးတောင်းဆိုခွင့်ကို ထိခိုက်ခြင်း မရှိစေရ။

၃၂။ ဤသဘောတူ စာချုပ်တွင်ပါရှိသော မြေပုံနှင့် နောက်ဆက်တွဲများသည် စာချုပ်၏ တစ်စိတ်တစ်ဒေသ ဖြစ်သည်။

၃၃။ ဤစာချုပ်သည် နိုင်ငံတော်၏ မူဝါဒအရ ပြင်ဆင်ရန် လိုအပ်ပါက ပြင်ဆင်ချုပ်ဆိုဆောင်ရွက်နိုင်သည်။

၃၄။ အထက်ဖော်ပြပါ စည်းကမ်းချက်များကို သဘောတူလက်ခံပါသဖြင့်အောက်ပါအသိ သက်သေ အစုံအလင်ရှေ့မှောက်၌ ၂၀၁၃ ခုနှစ်၊ ဩဂုတ်လ ( ၃၀ ) ရက်နေ့တွင် "အငှားချထားသူ" နှင့် "အငှားချထား ခြင်းခံရသူ"တို့ လက်မှတ်ရေးထိုး ချုပ်ဆို ကြပါသည်-

| အငှားချထားသူ(ကိုယ်စား) | အငှားချထားခြင်းခံရသူ(ကိုယ်စား) |
|---|---|
| (signature) | (signature) |
| ဒေါက်တာချို့ဝင်းမော် | ဦးဇော်ဝင်း |
| ဦးဆောင်ညွှန်ကြားရေးမှူး | အုပ်ချုပ်မှုဒါရိုက်တာ |
| (ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း) | ၉/မရမ(နိုင်)၀၀၁၆၂၄ |
| | (Mandalay Golden Friend Mining Co., Ltd.) |

ကန့်သတ်

အသိသက်သေများ

ဦးထွန်းငြိမ်း
ညွှန်ကြားရေးမှူး
ပစ္စည်းစီမံရေးဌာန

ဦးခင်အောင်
ဒါရိုက်တာ
၁၂/စခန(နိုင်)၀၆၄၂၈၆

ဒေါ်မာမာထွန်း
ညွှန်ကြားရေးမှူး
ဘဏ္ဍာရေးဌာန

ဦးကျော်စိုး
အထွေထွေမန်နေဂျာ
မြှင်းနှင့်သိုးမွေးမြူရေးစခန်း(ရန်ပယ်)

ဤစာချုပ်သည် ၁၈-၇-၂၀၁၃ ရက်နေ့တွင်ကျင်းပပြုလုပ်သော စက်မှုဝန်ကြီးဌာန၊ပစ္စည်းဝယ်ယူရောင်းချရေးနှင့်ဘဏ္ဍာရေးဆိုင်ရာကော်မတီ၏ (၈/၂၀၁၃-၂၀၁၄) ခွင့်ပြုချက်အရ သဘောတူစာချုပ်ချုပ် ဆိုခြင်း ဖြစ်သည်။

စက်မှုဝန်ကြီးဌာန

မြန်မာ့ဆေးဝါးလုပ်ငန်း

နှင့်

Shwe Mawlamyine Beverage Enterprise Co.,Ltd

တို့

ချုပ်ဆိုသော

မြင်းနှင့်သိုးမွေးမြူရေးစခန်း(ရန်ပယ်)လက်အောက်ရှိ

မော်လမြိုင်အမှတ်(၄)အရက်ချက်စက်ရုံခွဲ ၊ ရေခဲစက်ဝန်ထမ်း

အိမ်ရာတို့၏ မြေ နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦ နှင့်

စက်ပစ္စည်းများအား ငှားရမ်းသည့်

ပြင်ဆင်ချက် သဘောတူစာချုပ်

ရက်စွဲ ၊ ၂၀၁၅ ခုနှစ်၊ လ (    ) ရက်

**စက်မှုဝန်ကြီးဌာန**

**မြန်မာ့ဆေးဝါးလုပ်ငန်း**

**နှင့်**

Shwe Mawlamyine Beverage Enterprise Co.,Ltd

**တို့၏**

**မော်လမြိုင်အမှတ်(၄)အရက်ချက်စက်ရုံခွဲ၊ ရေခဲစက်ဝန်ထမ်းအိမ်ရာတို့၏**

**မြေ နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦ နှင့် စက်ပစ္စည်းများအား ငှားရမ်းသည့်**

**ပြင်ဆင်ချက် သဘောတူစာချုပ်**

ဤပြင်ဆင်ချက်သဘောတူစာချုပ် (နောင်တွင် "ပြင်ဆင်ချက်**သဘောတူစာ**ချုပ်"ဟု ခေါ်တွင်မည်) ကို နေပြည်တော်တွင် ၂၀၁၅ ခုနှစ်၊ မေ ( )ရက်နေ့၌ ဦးသန့်စင်၊ ဦးဆောင်ညွှန်ကြားရေးမှူး ကိုယ်စားပြုသော"**မြန်မာ့ဆေးဝါးလုပ်ငန်း**" စက်မှုဝန်ကြီးဌာန (နောင်တွင်'**အငှားချထားသူ**' ဟုခေါ်တွင်စေပြီး ယင်းဖော်ပြချက်တွင် ၎င်းအားဆက်ခံသူများ၊ ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင် သည်။) က တစ်ဖက်

**နှင့်**

မန္တလေးတိုင်းဒေသကြီး No.3, Between 14th& 15th Street, Pyi Gyi Yan Lone Quarter, Aung MyayThar Zan Township, နေ ဦးဇော်ဝင်း(၉/မရမ(နိုင်)၀၀၁၆၂၄) Managing Director ကိုယ်စား ပြုသော"**Shwe Mawlamyine Beverage Enterprise Co.,Ltd**" ရန်ကုန်တိုင်းဒေသကြီး၊ Room (A-4),No.295,Myoma Appartment Myoma Kyaung Street,Dagon Township **(ယခင် Mandalay Golden Friend Mining Company Limited)**(နောင်တွင် "**အငှားချထားခြင်းခံရသူ**" ဟု ခေါ်တွင်စေပြီး၊ ယင်းစကားရပ်တွင် ၎င်းတို့အား ဆက်ခံသူများ၊ တရားဝင် ကိုယ်စားလှယ်များနှင့် ဥပဒေအရလွှဲအပ်ခြင်း ခံရသူများ ပါဝင်သည်။)က အခြား တစ်ဖက်တို့သည် အောက်ပါ စည်းကမ်းချက်များကို သတ်မှတ်၍ နှစ်ဦးသဘောတူ စာချုပ်ချုပ်ဆိုကြပါ သည်-

<u>ကန့်သတ်</u>

(က) အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့ကြား မော်လမြိုင်အမှတ်(၄)အရက်ချက်စက်ရုံ၏ စက်ရုံ၊ မြေ၊ အဆောက်အဦများ နှင့် စက်ပစ္စည်းများကို တစ်နှစ်ငှားရမ်းခ ကျပ်သန်း(၆၀.၀၀၀)ဖြင့် (၁.၉.၂၀၁၃)ရက်နေ့မှစတင်၍ (၁၀)နှစ်သက်တမ်း ငှားရမ်းခြင်း သဘောတူစာချုပ်ကို ၂၀၁၃ ခုနှစ်၊ ဩဂုတ်လ (၃၀)ရက်နေ့တွင် နေပြည်တော်၌ စာချုပ် (နောင်တွင်“**မူလစာချုပ်**”ဟုခေါ်ဆိုမည် ဖြစ်သည်) ချုပ်ဆို၍ ငှားရမ်းခဲ့သည်ကတစ်ကြောင်း၊

(ခ) **မူလစာချုပ်**ကို (၅.၉.၂၀၁၃)ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဥ် (၂၆/၂၀၁၃)မှ ခွင့်ပြုခဲ့သည်ကတစ်ကြောင်း၊

(ဂ) အဆိုပါစာချုပ်၏ **စာချုပ်ပြင်ဆင်ခြင်း** ခေါင်းစဥ်အောက်ရှိ အပိုဒ်(၂၆)တွင် စာချုပ်ပါစည်းကမ်းချက်များကို ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းနှင့် ထပ်မံဖြည့်စွက်ခြင်း ပြုလုပ်လိုပါက“**အငှားချထားသူ**”နှင့် “**အငှားချထားခြင်းခံရသူ**” တို့၏ နှစ်ဦးနှစ်ဖက် တရားဝင်စာဖြင့်သဘောတူညီချက်နှင့် **စက်မှုဝန်ကြီးဌာန၊ပစ္စည်း ဝယ်ယူရောင်းချရေးနှင့်ဘဏ္ဍာရေးဆိုင်ရာကော်မတီအစည်းအဝေး** သို့တင်ပြ၍ အတည်ပြုချက်ရယူ ဆောင်ရွက်နိုင်သည်ဟု ဖော်ပြပါရှိသည်ကတစ်ကြောင်း၊

(ဃ) ငှားရမ်းသက်တမ်းကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုသက်တမ်းဖြစ်သည့် ကနဦးနှစ်(၅၀) နှင့် သက်တမ်းတိုးခြင်း (၁၀)နှစ် (၂)ကြိမ်အဖြစ် (၁.၉.၂၀၁၃) မှ စ၍ မူလငှားရမ်းသက်တမ်း (၁၀)နှစ် အပါအဝင် (၅၀)နှစ် တိုးမြှင့်လိုခြင်းကြောင့် ငှားရမ်းသည့် သဘောတူစာချုပ်၏ စာချုပ်ပြင်ဆင်ခြင်း အပိုဒ်(၂၆)အရ **ပထမအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်**ကို စာချုပ်ဝင်များအကြားချုပ်ဆိုခြင်းဖြစ်သည်။

၁။ **မူလစာချုပ်တွင်မပါဝင်သောရည်ရွယ်ချက်**ခေါင်းစဉ်ကို အောက်ပါစာပိုဒ်ဖြင့် ထပ်မံဖြည့်စွက်ရမည် -

**ရည်ရွယ်ချက်**

၁။ "**အငှားချထားသူ**"ပိုင်ဆိုင်သော နတ်ကျွန်းရပ်၊ မုပွန်ရပ်ကွက်၊ မော်လမြိုင်မြို့၊ မွန်ပြည်နယ်ရှိ မော်လမြိုင်အမှတ်(၄)အရက်ချက်စက်ရုံ နှင့် ၁၈၊ ဇင်ယော်လမ်း၊ ကွင်းရပ်ရပ်ကွက်၊ မော်လမြိုင်မြို့၊ မွန်ပြည်နယ်ရှိ ရေခဲစက် ဝန်ထမ်းအိမ်ရာတို့ကို "**အငှားချထားခြင်းခံရသူ**"မှ ငှားရမ်းပြီးအဆင့်မြင့် ပြည်တွင်းဖြစ် အရက်များထုတ်လုပ်သည့် ပုလင်းသွင်းလုပ်ငန်းများကို ဆောင်ရွက်ပြီးဖြန့်ဖြူးခြင်း၊ ရောင်းချခြင်းလုပ်ငန်းများဆောင်ရွက်နိုင်ရန် ရည်ရွယ်လျှက် ဤစက်ရုံငှားရမ်းသည့် သဘောတူစာချုပ်ကို ချုပ်ဆိုခြင်းဖြစ်သည်။

၂။ **မူလစာချုပ်၏ အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း** ခေါင်းစဉ်ရှိ အပိုဒ်(၁)အား ပယ်ဖျက်၍ အပိုဒ်(၂)အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည် -

**အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း**

၂။ "**အငှားချထားသူ**"သည် နောက်ဆက်တွဲများတွင် အသေးစိတ် ဖော်ပြထားသော စက်ရုံ၊ မြေ၊ အဆောက်အဦ၊ စက်နှင့်စက်ပစ္စည်း၊ ဓါတ်ခွဲခန်းသုံးပစ္စည်း၊ ပရိဘောဂနှင့် ရုံးသုံးပစ္စည်း၊ အိပ်ဆောင်သုံး ပစ္စည်း၊ မော်တော်ယာဉ်များကို တရားဝင် ပိုင်ဆိုင်သူဖြစ်ပါသည်။ "**အငှားချထားခြင်းခံရသူ**"သည် စာချုပ်ကိုအကောင်အထည်ဖော်ဆောင်ရွက်ရန် ငွေကြေးပြည့်စုံပြီးစာချုပ်ပါလုပ်ငန်းကိုလုပ်ကိုင်ခွင့်ရှိသူဖြစ်သည်။စာချုပ်တွင်လက်မှတ် ရေးထိုးမည့်သူများသည် ဤစာချုပ်တွင် လက်မှတ်ရေးထိုးရန် အခွင့် အာဏာ ရှိသူဖြစ်ကြောင်းကို အသီးသီးအာမခံကြပါသည်။

ကန့်သတ်

၃။ **မူလစာချုပ်၏ အငှားချထားမည့် ပစ္စည်းများ** ခေါင်းစဉ်ရှိ အပိုဒ်(၂)အား ပယ်ဖျက်၍ အပိုဒ်(၃)အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည် -

**အငှားချထားမည့်ပစ္စည်းများ**

၃။ **"အငှားချထားခြင်းခံရသူ"** သည် အောက်ဖော်ပြပါ **"အငှားချထားသူ"**ပိုင် စက်ရုံ၊ မြေ၊ အဆောက် အဦ နှင့် စက်ပစ္စည်း ၊ ဓါတ်ခွဲခန်းသုံးပစ္စည်း ၊ ပရိဘောဂနှင့် ရုံးသုံးပစ္စည်း ၊ အိတ်ဆောင်သုံး ပစ္စည်း ၊ မော်တော်ယာဉ်များကို ငှားရမ်း၍ အဆင့်မြင့် ပြည်တွင်းဖြစ် အရက်များ ထုတ်လုပ်သည့် ပုလင်းသွင်း လုပ်ငန်းများကို ဆောင်ရွက်ပြီး ဖြန့်ဖြူးခြင်း ၊ ရောင်းချခြင်းလုပ်ငန်းများ ဆောင်ရွက်မည် ဖြစ်ပါသည်-

| | | | |
|---|---|---|---|
| (က) စက်ရုံအမည်နှင့်တည်နေရာ | - | နတ်ကျွန်းရပ်၊ မုပ္ပွန်ရပ်ကွက်၊ မော်လမြိုင်မြို့၊ မွန်ပြည်နယ် ။**(စက်ရုံ)** | |
| | - | ၁၈၊ ဇင်ယော်လမ်း၊ ကွင်းရပ်ရပ်ကွက်၊ မော်လမြိုင်မြို့၊ မွန်ပြည်နယ် ။ **(ရေခဲစက်ဝန်ထမ်းအိမ်ရာ)** | |
| (ခ) မြေ(ဧက) | - | စက်ရုံမြေဧရိယာ | ၆.၆၉၄ ဧက |
| | - | ရေခဲစက်ဝန်ထမ်းအိမ်ရာ | ၄.၇၇၄ ဧက |
| | - | **စုစုပေါင်း** | ၁၁.၄၆၈ ဧက |
| (ဂ) တည်နေရာပြမြေပုံ | - | နောက်ဆက်တွဲ (က) | |
| (ဃ) အဆောက်အဦ | - | နောက်ဆက်တွဲ ( ခ) | |
| (င) စက်နှင့်စက်ပစ္စည်း | - | နောက်ဆက်တွဲ ( ဂ) | |
| (စ) ဓါတ်ခွဲခန်းသုံးပစ္စည်း | - | နောက်ဆက်တွဲ (ဃ) | |
| (ဆ) ပရိဘောဂနှင့်ရုံးသုံးပစ္စည်း | - | နောက်ဆက်တွဲ ( င) | |
| (ဇ) အိပ်ဆောင်သုံးပစ္စည်း | - | နောက်ဆက်တွဲ ( စ) | |
| (ဈ) မော်တော်ယာဉ်စာရင်း | - | နောက်ဆက်တွဲ (ဆ) | |

၄။ **မူလစာချုပ်၏ ငှားရမ်းမည့်အချိန်ကာလ** ခေါင်းစဉ်ရှိ အပိုဒ်(၃)အား ပယ်ဖျက်၍ အပိုဒ်(၄) အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည် -

**ငှားရမ်းမည့်အချိန်ကာလ**

၄။ ငှားရမ်းမည့်အချိန်ကာလ ကနဦးနှစ်(၅၀)မှာ ၂၀၁၃ ခုနှစ် ၊ စက်တင်ဘာ(၁)ရက်နေ့ မှ ၂၀၆၃ ခုနှစ် ဩဂုတ်လ(၃၁)ရက်နေ့အထိဖြစ်ပြီး ထပ်မံ၍သက်တမ်းတိုးခြင်းကို တစ်ကြိမ် လျှင် (၁၀)နှစ်စီဖြင့် သက်တမ်း တိုး(၂)ကြိမ် ဆောင်ရွက်နိုင်သည်။ထပ်မံ သက်တမ်းတိုး ဆောင်ရွက်ခြင်းကို စက်မှုဝန်ကြီးဌာနမှတဆင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အတည်ပြုချက် တင်ပြဆောင်ရွက်ရမည် ဖြစ်သည်။

၅။ **မူလစာချုပ်၏ စာချုပ်သက်တမ်း** ခေါင်းစဉ်ရှိ အပိုဒ်(၄)အား ပယ်ဖျက်၍ အပိုဒ်(၅)အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည် -

**စာချုပ်သက်တမ်း**

၅။ စာချုပ်သက်တမ်းမှာ ၂၀၁၃ ခုနှစ်၊ စက်တင်ဘာလ (၁)ရက်နေ့မှ ၂၀၆၃ ခုနှစ် ဩဂုတ်လ (၃၁) ရက်နေ့အထိ ဖြစ်သည်။ စာချုပ်သက်တမ်း တိုးမြှင့်လိုပါက တစ်ကြိမ်လျှင် (၁၀) နှစ်စီဖြင့် သက်တမ်းတိုး (၂)ကြိမ် ဆောင်ရွက်နိုင်သည်။

၆။ **မူလစာချုပ်ပါ** ငှားရမ်းရာတွင် ပါဝင်သော ဝန်ထမ်းများ မရှိတော့ပါ၍ ဝန်ထမ်းရေးရာနှင့် သက်ဆိုင်သော အပိုဒ်(၅)၊ (၆)၊ (၇)တို့အား ပယ်ဖျက်လိုက်သည် ။

၇။ **မူလစာချုပ်၏ ငှားရမ်းခနှုန်းထားများ** ခေါင်းစဉ်အောက်ရှိ အပိုဒ်(၉)နှင့် အပိုဒ်(၁၀)တို့အား အပိုဒ်(၆) အပိုဒ်(၇)တို့အဖြစ် ပြောင်းလဲပြင်ဆင်လိုက်သည်။ယင်းစာပိုဒ်များ၏ နောက်တွင် အောက်ပါ အပိုဒ်(၈)အား ထပ်မံဖြည့်စွက်ရမည် -

၈။ ငှားရမ်းခကို(၂)နှစ်(၁)ကြိမ် ပြန်လည်သုံးသပ်၍ (၂%မှ ၅%)အတွင်း မပိုမလျော့နည်း စေရန် နှစ် ဖက်ညှိနှိုင်း ဆောင်ရွက်ရမည်။

ကန့်သတ်

၈။ **မူလစာချုပ် ၏ ငှားရမ်းခပေးသွင်းခြင်း** ခေါင်းစဉ်ရှိ အပိုဒ်(၁၁)အား အပိုဒ်(၉)အဖြစ် အောက်ပါအတိုင်း ဖြည့်စွက်ပြင်ဆင်ပြီး အပိုဒ်(၁၂)အား ပယ်ဖျက်လိုက်သည် -

**ငှားရမ်းခပေးသွင်းခြင်း**

၉။ **"အငှားချထားခြင်းခံရသူ"**သည် တစ်နှစ်လျှင် ငှားရမ်းခ ကျပ်(၆၀) သန်းဖြစ်၍ စာချုပ်လက်မှတ် ရေးထိုးသည့်နေ့မှစ၍ (၃)လအတွက် ငှားရမ်းခကျသင့်ငွေကို (၃)လလျှင် တစ်ကြိမ် ပထမလ၏ (၁၅)ရက် အတွင်းပေးသွင်းရမည်။

၉။ **မူလစာချုပ်၏ နောက်ကျကြေးပေးသွင်းခြင်း** ခေါင်းစဉ် အပိုဒ်(၁၃)အား ပယ်ဖျက်၍ အပိုဒ်(၁၀) အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်။

**နောက်ကျကြေးပေးသွင်းခြင်း**

၁၀။ **"အငှားချထားခြင်းခံရသူ"**သည် စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ ပထမလ၏ (၁၅)ရက်အတွင်း ပေးသွင်းရမည့်(၃)လအတွက် ငှားရမ်းခအား ပေးသွင်းရန် ပျက်ကွက်ပါက နောက်ကျကြေးအဖြစ် တစ်လနောက်ကျ တိုင်း(၃)လအတွက် ပေးသွင်းရမည့်ငွေ၏ (၀.၅%) (သုညဒသမ ငါးရာခိုင်နှုန်း)ကို ဒဏ်ကြေးအဖြစ် သတ်မှတ်၍ နောက်ကျသည့် ရက်အတိုင်း တွက်ချက်ပေးဆောင်ရမည်။

၁၀။ **မူလစာချုပ်၏ "အငှားချထားခြင်းခံရသူ"၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များ** ခေါင်းစဉ်ရှိ အပိုဒ်(၁၄)အား ပယ်ဖျက်၍ အပိုဒ်(၁၁)အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်။

**အငှားချထားခြင်းခံရသူ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ**

၁၁။ **"အငှားချထားခြင်းခံရသူ"**၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) မြေ ၊ အဆောက်အဦများ ၊ စက်ပစ္စည်းများ ၊ ရုံးသုံးပစ္စည်းများ အခြားပစ္စည်းများ ၊ မော်တော်ယာဥ် နှင့် အခြားယာဥ်များနှင့်ပတ်သက်၍ နောက်ဆက်တွဲပါအတိုင်း အသုံးပြုနိုင်သည်။

(ခ) အကယ်၍ အသုံးပြုလိုခြင်းမရှိသော စက်ပစ္စည်းကိရိယာများ ရုံးသုံးပစ္စည်းများ ၊ ရုံးသုံးကိရိယာများ ၊ အခြားပရိဘောဂများ ၊ မော်တော်ယာဥ်များရှိပါက **"အငှားချထားသူ"**သို့ ညှိနှိုင်း၍ စနစ်တကျလွှဲပြောင်းပေးနိုင်သည်။

(ဂ) **"အငှားချထားခြင်းခံရသူ"**၏ လုပ်ငန်းနှင့်မကိုက်ညီသော မူလအဆောက်အဦကို ပြုပြင်ရန် (သို့) ဖြိုဖျက်ရန်အလို့ငှာ **"အငှားချထားသူ"**၏ သဘောတူခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်နိုင်သည်။

(ဃ) **"အငှားချထားခြင်းခံရသူ"**သည် လုပ်ငန်းတိုးချဲ့ခြင်း ၊ ပြင်ဆင်ခြင်း ၊ မွမ်းမံခြင်း ၊ အဆောက်အဦ ဆောက်လုပ်ခြင်းများကို **"အငှားချထားသူ"**၏ သဘောတူခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်နိုင်သည်။

(င) **"အငှားချထားခြင်းခံရသူ"**သည် ငှားရမ်းချိန်ကပါရှိသော အဆောက်အဦများမှအပ မြေလွတ်များတွင် စီးပွားရေးဆိုင်ရာ အဆောက်အဦများ ထပ်မံဆောက်လုပ်ဆောင်ရွက်မည်ဆိုပါက လုပ်ငန်းအခြေအနေပေါ်မူတည်၍ ငှားရမ်းခတိုးမြှင့်ခြင်းကိုနှစ်ဖက်ညှိနှိုင်း ဆောင်ရွက်ရမည်။

(စ) စက်ရုံရှိ စာချုပ်ပါငှားရမ်းသည့် စက်ပစ္စည်း ၊ အဆောက်အဦများနှင့်ပတ်သက်၍ ပြုပြင်ထိန်းသိမ်းမှုများကို **"အငှားချထားခြင်းခံရသူ"** မှ တာဝန်ယူဆောင်ရွက်ရမည်။

(ဆ) **"အငှားချထားခြင်းခံရသူ"** သည် ငှားရမ်းခငွေများကို ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်နှင့်အညီသတ်မှတ်ထားသည့် အချိန်အတွင်း "အငှားချထားသူ"ထံ မှန်မှန်ကန်ကန် ပေးသွင်းရမည်။

(ဇ) စက်ရုံအား စတင်ငှားရမ်းသည့်အချိန်ရှိ စက်ရုံနှင့်ပတ်သက်သည့် ဌာနအလိုက် စာရွက်စာတမ်းများ၊ စာရင်းများကို စာရင်းစစ် အစစ်ဆေးခံနိုင်ရန်နှင့် အခြား လိုအပ်သည်များဆောင်ရွက်နိုင်ရန်စက်ရုံနောက်ချန်အဖွဲ့မှ စနစ်တကျ ထိန်းသိမ်း ဆောင်ရွက်နိုင်ရန် စီစဉ်ပေးရမည်။

(ဈ) အငှားချထားသည့် ပစ္စည်းအားလုံးကို လျော်ကန်သင့်မြတ်သော သတိဝိရိယဖြင့် ကောင်းမွန်စွာ ထိန်းသိမ်းထားရမည်။ လျှပ်စစ်ဓါတ်အားသုံးစွဲမှုကို တည်ဆဲဥပဒေ စည်းမျဉ်းများနှင့်အညီ သုံးစွဲပြီးမီးဘေးကာကွယ်ရေး အစီအမံများ လုံလောက်စွာ ထားရှိရမည်။

(ည) အငှားချထားသည့် ပစ္စည်းများကို တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ ရောင်းချခြင်း၊ သို့မဟုတ် တနည်းနည်းဖြင့် လွှဲပြောင်းပေးခြင်း စသည်တို့ လုံးဝ မပြုလုပ်ရ။

(ဋ) "အငှားချထားခြင်းခံရသူ"သည်အငှားချထားသည့်ကာလအတွင်း"အငှားချထားသူ" မှလည်းကောင်း၊ " အငှားချထားသူ" က နည်းလမ်းတကျလုပ်ပိုင်ခွင့်ပေးထားသော ကိုယ်စားလှယ်များကိုလည်းကောင်း လိုအပ်ပါကဝင်ရောက်လေ့လာခြင်း ၊ စစ်ဆေး ခြင်းများဆောင်ရွက်ခြင်းရှိပါက ခွင့်ပြုရမည်။

(ဌ) အငှားချထားသည့် ပစ္စည်းများနှင့် ပတ်သက်၍ မြေခွန်မှအပ သက်ဆိုင်သည့် အခွန်အခ အမျိုးမျိုးကိုကျခံပေးဆောင်ရမည်။

(ဍ) အငှားချထားသည့် ပစ္စည်းများနှင့်စပ်လျဉ်း၍ အလုံးစုံသောအာမခံကိုမြန်မာ့အာမခံ လုပ်ငန်းဥပဒေပါ ပြဋ္ဌာန်းချက်နှင့်အညီ မပျက်မကွက် ထားရှိ ဆောင်ရွက်ရမည်။

(ပ) ဤသဘောတူစာချုပ် သက်တမ်းကုန်သည့်အခါ အငှားချထားသည့် စက်ရုံကို မူလငှားရမ်းစဉ်က အခြေအနေထက်မလျော့ဘဲ ထိန်းသိမ်းထားရမည်။ သို့ရာတွင် အကျိုး အကြောင်းဆီလျော်မှုရှိသော ပျက်စီးမှုများအတွက် ပြောင်းလဲမှုများကို ခွင့်ပြုလက်ခံနိုင်သည်။

(ဏ) အငှားချထားသည့်စက်ရုံတွင် တပ်ဆင်မှုများ ၊ ပုံစံပြောင်းလဲမှု နှင့် တိုးချဲ့မှုများ အားလုံးသည် ငှားရမ်းခြင်း စာချုပ်သက်တမ်း ကုန်ဆုံးသည့်အချိန်တွင် အခကြေး ငွေပေးရန်မလိုဘဲ "**အငှားချထားသူ**"ပိုင် ပစ္စည်းများ အလိုအလျောက် ဖြစ်လာရ မည်။အကယ်၍ မိမိတပ်ဆင်ထားသော ပစ္စည်းအား အငှားချထားသည့် အဆောက် အဦးလွှဲပြောင်းချိန်တွင်ပြန်လည် ဖြုတ်ယူသွားလိုပါက ယင်းပစ္စည်းများအား တပ်ဆင် ခြင်း မပြုမီကတည်းက နှစ်ဖက်ညှိနှိုင်း အတည်ပြုချက် ရယူထားရမည်။ သို့ရာတွင် လေအေးပေးစက်များ ၊ လျှပ်စစ်ထုတ်စက်များ နှင့် အခြားရွှေ့ပြောင်းနိုင်သည့် ပစ္စည်းများကိုမူ ထားခဲ့ရန်မလိုဘဲ ဖြုတ်ယူသွားနိုင်သည်။

(တ) စက်ရုံမှထုတ်ကုန်များအား ပြင်ပဈေးကွက်တွင် မိမိကြိုက်နှစ်သက်သည့် ဈေးနှုန်း ဖြင့် လွတ်လပ်စွာ ရောင်းချခွင့် ၊ သိုလှောင်ခွင့် ၊ သယ်ယူခွင့်ရှိသည်။

(ထ) "**အငှားချထားခြင်းခံရသူ**" သည် တရားဥပဒေ နှင့် မညီညွတ်သော လုပ်ငန်းများကို လုပ်ကိုင် ဆောင်ရွက်ခြင်း မပြုရ။

(ဒ) "**အငှားချထားခြင်းခံရသူ**"သည် မူလလုပ်ငန်းအပြင် နိုင်ငံတော်မှ ခွင့်ပြုထားသော အခြား လုပ်ငန်းများအား လုပ်ကိုင် ဆောင်ရွက်လိုပါက "**အငှားချထားသူ**"၏ သဘောတူ ခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်နိုင်သည်။

(ဓ) "**အငှားချထားခြင်းခံရသူ**"မှ ဆောင်ရွက်မည့် စာချုပ်ပါ လုပ်ငန်းများအတွက် သက်ဆိုင်ရာ ဌာနဆိုင်ရာများ၏ လုပ်ငန်းဆောင်ရွက်ခွင့်ပြုမိန့် အထောက် အထားများ ထားရှိပြီး "**အငှားချ ထားသူ**" ထံ မိတ္တူတစ်စုံ အပ်နှံထားရမည်။

(န) အငှားချထားသည့် ပစ္စည်းရပ်များတွင် **"အငှားချထားသူ"** ၏ (နေ့စား၊လခစား) ဝန်ထမ်းများ အနက် ၎င်းတို့၏ဆန္ဒအလျောက် **"အငှားချထားခြင်းခံရသူ"** (ကုမ္ပဏီ) သို့ လိုက်ပါမည့် ဝန်ထမ်းများကို **"အငှားချထားခြင်းခံရသူ"** (ကုမ္ပဏီ) သည် နိုင်ငံဝန်ထမ်းဥပဒေ၊ အလုပ်သမားဥပဒေ၊ အလုပ်သမား အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာနမှ သတ်မှတ်ထားသည့် ပြင်ပဝန်ထမ်း စည်းမျဉ်း စသည်တို့နှင့်အညီ အငှားချထားခြင်း ခံရသူ၏ စီမံခန့်ခွဲမှု (ကုမ္ပဏီဝန်ထမ်းအဖြစ်) ဖြင့် လွှဲပြောင်းလက်ခံ ဆောင်ရွက်ရမည်။

(ပ) **"အငှားချထားခြင်းခံရသူ"** သည် လုပ်ငန်းများကို တိုးချဲ့ရာတွင် ပြည်တွင်း ၊ ပြည်ပရင်းနှီးမြှုပ်နှံမှုများ နှင့် အကျိုးတူပူးပေါင်း ဆောင်ရွက်မည်ဆိုပါက မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု ဥပဒေ၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လုပ်ကိုင်ဆောင်ရွက်ရမည်။

(ဖ) **"အငှားချထားခြင်းခံရသူ"**သည် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ရမည်။

(ဗ) **"အငှားချထားခြင်းခံရသူ"** သည် ပတ်ဝန်းကျင် အနှောင့်အယှက် အန္တရာယ်ဖြစ်စေမည့် အကြောင်းအချက်များကို ကြိုတင်ကာကွယ်တားဆီး၍ ဖြစ်ပွားပါက ပြီးဆုံးသည့်တိုင်အောင် တာဝန်ယူဖြေရှင်းဆောင်ရွက်ရမည်။

(ဘ) နိုင်ငံတော်မှ သတ်မှတ်ထားသော သက်ဆိုင်ရာဥပဒေများ ၊ ဒေသဆိုင်ရာ လူမှုဘဝကိစ္စရပ်များ နှင့် ပတ်သက်၍ အကြောင်းတစ်စုံတစ်ရာ ပေါ်ပေါက်ပါက **"အငှားချထားခြင်းခံရသူ"** မှ တာဝန်ယူ ဖြေရှင်းရမည်။

(မ ) ဝန်ထမ်းများအတွက် ပင်စင်ထည့်ဝင်ကြေးကို **"အငှားချထားခြင်းခံရသူ"** မှ မြန်မာ့ဆေးဝါးလုပ်ငန်းသို့ လစဉ် မပျက်မကွက်ပေးသွင်းရမည်။

၁၁။ **မူလစာချုပ်၏ အငှားချထားသူ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ** ခေါင်းစဉ်ရှိ အပိုဒ်(၁၅)အား ပယ်ဖျက်၍ အပိုဒ်(၁၂)အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

**"အငှားချထားသူ"၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ**

၁၂။ **"အငှားချထားသူ"**၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) "အငှားချထားခြင်းခံရသူ" အား နောက်ဆက်တွဲများပါ အငှားချထားသည့် ပစ္စည်းများကို အသုံးပြုခွင့်ပေးရမည်။

(ခ) စက်ရုံတွင်တပ်ဆင်ထားပြီးသော လျှပ်စစ်၊ ရေ၊ တယ်လီဖုန်း တို့ကို **"အငှားချထားခြင်းခံရသူ"** အား ဆက်လက် အသုံးပြုခွင့်ပြုရမည်။

(ဂ) အငှားချထားသည့် စက်ရုံ၏ အခြေအနေများကို နည်းလမ်းတကျ လုပ်ပိုင်ခွင့်ပေးအပ်သော ကိုယ်စားလှယ်များ စေလွှတ်၍ စစ်ဆေးပိုင်ခွင့်ရှိသည်။

(ဃ) စက်ရုံအတွက်ကျသင့်သည့် မြေခွန်ကို ပေးဆောင်ရမည်။

(င) "အငှားချထားခြင်းခံရသူ"မှ အသုံးပြုလိုခြင်း မရှိကြောင်းညှိနှိုင်း တင်ပြလာသည့် စက်ပစ္စည်းကိရိယာများကို စက်မှုဝန်ကြီးဌာန သို့တင်ပြ၍လိုအပ်သလို စီမံခန့်ခွဲခွင့်ရှိသည်။

(စ) "အငှားချထားခြင်းခံရသူ "၏ လုပ်ငန်းနှင့် မကိုက်ညီကြောင်း ညှိနှိုင်းတင်ပြလာသည့် မူလအဆောက်အဦကို ရှင်းလင်းရန် စက်မှုဝန်ကြီးဌာန သို့တင်ပြ၍ စီမံဆောင်ရွက်ခွင့် ရှိသည်။

(ဆ) ဝန်ထမ်းများ ရာထူးတိုးမြှင့်ရေး ၊ ပြောင်းရွှေ့ရေးကိစ္စများကို "အငှားချထားခြင်းခံရသူ" နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

(ဈ) စက်ရုံအား စတင်ငှားရမ်းသည့်အချိန်ရှိ စက်ရုံနှင့် ပတ်သက်သည့်ဌာနအလိုက် စာရွက်စာတမ်းများ ၊ စာရင်းများကို စာရင်းစစ် အစစ်ဆေးခံနိုင်ရန်နှင့် အခြားလိုအပ်သည်များ ဆောင်ရွက်နိုင်ရန် **"အငှားချထားခြင်းခံရသူ"** နှင့် ညှိနှိုင်း၍ စနစ်တကျ ထိန်းသိမ်းထားရှိရမည်။

(ဈ) စက်ရုံရှိ (နေ့စား/လခစား) ဝန်ထမ်းများ အနက် **"အငှားချထားခြင်းခံရသူ"** (ကုမ္ပဏီ)သို့ လိုက်မည့် ဝန်ထမ်းများကို အထူး ပင်စင်ခံစားခွင့်ပြုကာ ကုမ္ပဏီဝန်ထမ်းအဖြစ် အပြီးအပြတ် လွှဲပြောင်းခွင့်ရှိသည်။

(ည) အငှားချထားသည့် စက်ရုံဧရိယာအတွင်း လုပ်ငန်းဆောင်ရွက်မှုနှင့် စပ်လျဉ်း၍ **"အငှားချထားခြင်း ခံရသူ"**၏ အခက်အခဲများကို သက်ဆိုင်ရာ ဌာနများသို့ **"အငှားချထားခြင်းခံရသူ"**တို့နှင့် ညှိနှိုင်း၍ တတ်နိုင်သမျှ ကူညီဆောင်ရွက် ပေးရမည်။

(ဋ) **"အငှားချထားသူ"**သည် နိုင်ငံတော်၏မူဝါဒနှင့်အညီ **" ငှားရမ်းသည့်သဘောတူစာချုပ်"** ကို ပြင်ဆင်ချုပ်ဆိုခွင့်ရှိသည်။

၁၂။ **မူလစာချုပ်၏ ပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်ခြင်း** ခေါင်းစဉ်ရှိ အပိုဒ်(၂၂)အား အပိုဒ်(၁၃) အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်။

**ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း**

၁၃။ **"အငှားချထားခြင်းခံရသူ"** အနေဖြင့် လုပ်ငန်းလုပ်ဆောင်မည့် နေရာဒေသ၏ ပတ်ဝန်းကျင်နေရာ များအား ကောင်းစွာ ကာကွယ်ထိန်းသိမ်းစောင့်ရှောက်ထားရန် တာဝန်ရှိသည်။ ထို့အပြင် လေထု ၊ ရေထု နှင့် မြေထုများ ညစ်ညမ်းခြင်းနှင့် အခြားသောပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက် ပျက်စီးဆုံးရှုံးခြင်းအား ကာကွယ် ထိန်းချုပ်ခြင်း လုပ်ငန်းများ ၊ ရေများ

သန့်စင်နိုင်သော စက်များ တပ်ဆင်ပေးခြင်း ၊ လေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန် အခိုးအငွေ့နှင့် အညစ်အကြေးစွန့် အစိတ် အပိုင်းများကို လုံခြုံစွာ ထားရှိပေးခြင်း ဖြင့် အခြားသော ပတ်ဝန်းကျင် ဘေးအန္တရာယ် ကင်းရှင်းရေးဆိုင်ရာ လိုအပ်သော အကာအကွယ် အစီအစဉ်များစသည်တို့ကို ပတ်ဝန်းကျင်ထိန်းသိမ်း စောင့်ရှောက်ရေးဥပဒေ၊ တည်ဆဲဥပဒေများနှင့် အညီ လိုက်နာ ဆောင်ရွက်ရမည်။

၁၃။ **မူလစာချုပ်၏ ကြိုတင်စည်းကမ်း သတ်မှတ်ချက်များ** ခေါင်းစဉ်ရှိ အပိုဒ်(၂၃)အား အပိုဒ်(၁၄) အဖြစ် ပြောင်းလဲပြင်ဆင်ရမည်။

၁၄။ မူလစာချုပ်တွင် မပါဝင်သော **အာမခံထားရှိခြင်း** ခေါင်းစဉ်ကို အပိုဒ်(၁၅)အဖြစ် အောက်ပါစာပိုဒ်အား ထပ်မံဖြည့်စွက်ရမည်-

**အာမခံထားရှိခြင်း**

၁၅။ အငှားချထားခြင်းခံရသူသည် တစ်နှစ်စာငှားရမ်းခ၏ ၁၀ % နှင့်ညီမျှသော တန်ဖိုးအား လုပ်ငန်း ဆောင်ရွက်မှုအာမခံ (Performance Bank Guarantee) အဖြစ် မြန်မာ့စီးပွားရေး ဘဏ်တွင်အပ်နှံ ထားရှိ၍ ထားရှိမှုမှတ်တမ်းကို စာချုပ်သက်တမ်းတစ်လျှောက် မြန်မာ့ဆေးဝါးလုပ်ငန်းတွင် သိမ်းဆည်းထားရှိရမည်။

၁၅။ **မူလစာချုပ်၏ စာချုပ်ပြန်လည်စေ့စပ်ညှိနှိုင်းခြင်း** ခေါင်းစဉ်ရှိ အပိုဒ်(၂၄)အား အပိုဒ်(၁၆)အဖြစ် ပြင်ဆင်လိုက်သည်။

၁၆။ **မူလစာချုပ်၏ စာချုပ်သက်တမ်းတိုးခြင်း** ခေါင်းစဉ်ရှိ အပိုဒ်(၁၆)အား ပယ်ဖျက်၍ အပိုဒ်(၁၇) အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

**စာချုပ်သက်တမ်းတိုးခြင်း**

၁၇။ "**အငှားချထားခြင်းခံရသူ**" သည် ဤသဘောတူစာချုပ် သက်တမ်းကုန်ဆုံးပြီးနောက် အငှားချ ထားသည့် စက်ရုံကို ဆက်လက်ငှားရမ်းလိုပါက နောက်ထပ် ငှားရမ်းလိုသည့် ကာလနှင့် ငှားရမ်းခ နှုန်းထားများ ကို ဖော်ပြလျက် စာချုပ်သက်တမ်း တိုးမြှင့်ပေးပါရန် " **အငှားချထားသူ** " ထံ စာချုပ်သက်တမ်း မကုန်ဆုံးမီ(၃)လကြိုတင်၍ စာဖြင့်တင်ပြရမည်။ ထပ်မံငှားရမ်းမည့် ကာလအတွက် နှစ်စဉ် ငှားရမ်းခ နှုန်းထားကို နှစ်ဦးနှစ်ဖက် ညှိနှိုင်း သတ်မှတ်ရမည်။ ထိုသို့သက်တမ်း တိုးမြှင့်ခြင်း၊ ငှားရမ်းခ နှုန်းထား ပြင်ဆင်ခြင်းတို့သည် **စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာ ကော်မတီ အစည်းအဝေး** ၏အတည်ပြုချက်ရရှိ မှသာ အတည်ဖြစ်စေရမည်။

၁၇။ **မူလစာချုပ် ၏ အငြင်းပွားမှုဖြေရှင်းခြင်း** ခေါင်းစဉ်ရှိ အပိုဒ်(၁၇)အား အပိုဒ်(၁၈)အဖြစ် ပြောင်းလဲပြင်ဆင်လိုက်သည်။

၁၈။ **မူလစာချုပ်၏ သယံဇာတပစ္စည်းဆိုင်ရာကိစ္စ** ခေါင်းစဉ်ရှိ အပိုဒ်(၁၈)အား အပိုဒ်(၁၉)အဖြစ် ပြောင်းလဲပြင်ဆင်လိုက်သည်။

၁၉။ **မူလစာချုပ်၏ ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း** ခေါင်းစဉ်ရှိ အပိုဒ်(၁၉)အား ပယ်ဖျက်၍ အပိုဒ်(၂၀)အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

**ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း**

၂၀။ "**အငှားချထားခြင်းခံရသူ**"သည် ဤပြင်ဆင်ချက် သဘောတူစာချုပ်ပါ စာချုပ်သက်တမ်း ကုန်ဆုံးသည့်အခါ ဖြစ်စေ(သို့မဟုတ်) စာချုပ်ရပ်စဲသည့်အခါ ဖြစ်စေ ယင်းသို့ ကုန်ဆုံးသည့်နေ့မှ (သို့မဟုတ်) စာချုပ်ရပ်စဲသည့်နေ့မှ (၃၀)ရက်အတွင်း အငှားချထားသည့် စက်ရုံ၊ မြေ၊ အဆောက်အဦနှင့် စက်ကိရိယာများ နှင့် အခြားပုံသေပိုင် ပစ္စည်း

များကို **"အငှားချထားသူ"** သို့ အဖိုးစားနားမပါဘဲ ကောင်းမွန်သော အနေအထားဖြင့် ပြန်လည် လွှဲပြောင်းပေးအပ်ရမည်။ သို့ရာတွင် သတ်မှတ်ကာလ အတွင်း လွှဲပြောင်းခြင်းကိစ္စရပ်အား မပြီးစီးပါက ခိုင်လုံသော အကြောင်းပြချက်ဖော်ပြ၍ စာဖြင့်(၇)ရက်ကြိုတင် တင်ပြ တောင်းခံ၍ အငှားချထားသူနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၂၀။ **မူလစာချုပ်၏ မလွန်ဆန်နိုင်သည့် ဖြစ်ရပ်များ** ခေါင်းစဥ်ရှိ အပိုဒ်(၂၀)နှင့် အပိုဒ်(၂၁)တို့အား ပယ်ဖျက်၍ အပိုဒ်(၂၁)နှင့်အပိုဒ်(၂၂) တို့အဖြစ် အောက်ပါစာပိုဒ်များဖြင့် အစားထိုးပြင်ဆင်ရမည်-

**မလွန်ဆန်နိုင်သည့် ဖြစ်ရပ်များ**

၂၁။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များဆိုသည်မှာ သဘာဝအလျောက် ကြုံတွေ့နိုင်သည့် ရေဘေး ၊ လေဘေး ၊ မီးဘေး ၊ မြေငလျင်ဘေး စသည်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ တရားဥပဒေစိုးမိုးရေး နှင့် ငြိမ်ဝပ်ပိပြားမှု ပယ်ဖျက်ခြင်း ၊ စစ်ဖြစ်ခြင်း ၊ သပိတ်မှောက်ခြင်း စသည်တို့ နှင့် စာချုပ်ဝင် တစ်ဖက်ဖက်ကလိုအပ်သော သတိဝိရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန် မကျော်လွှားနိုင်သည့် အလားတူ ဖြစ်ရပ်များဖြစ်ပြီး ယင်းဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုကို ထိခိုက် ဆုံးရှုံးစေလျှင် **"အငှားချထားခြင်းခံရသူ"**သည် **"အငှားချထားသူ"** သို့ နစ်နာဆုံးရှုံးမှု အတွက် လျော်ကြေးတောင်းခံခွင့် မရှိစေရ။

၂၂။ ထိုသို့မလွန်ဆန်နိုင်သော ဖြစ်ရပ်များပေါ်ပေါက်ပါက ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့် အချိန်မှ ၁၄(တစ်ဆယ့်လေး)ရက်အတွင်း **"အငှားချထားခြင်းခံရသူ"** သည် **"အငှားချထားသူ"** သို့ ချက်ချင်းစာဖြင့် ရေးသားအကြောင်းကြားရမည်။ **"အငှားချထားသူ"** က လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ်မြောက်ပြီး စက်ရုံ၊ မြေ၊ အဆောက်အဦ နှင့် စက်ပစ္စည်း၊ ဓါတ်ခွဲခန်းသုံးပစ္စည်း၊ ပရိဘောဂနှင့် ရုံးသုံးပစ္စည်း၊ အိတ်ဆောင်သုံးပစ္စည်း၊ မော်တော်ယာဥ်များကို ငှားရမ်းအသုံးပြုခွင့်နှင့် တိုက်ရိုက် သက်ဆိုင်သော ဖြတ်တောက်ကာလအပိုင်းအခြား အတွက် ငှားရမ်းခကို သက်သာခွင့်ပြုနိုင်သည်။

၂၁။ **မူလစာချုပ်၏ စာချုပ်အကျိုးသက်ရောက်သည့်နေ့** ခေါင်းစဥ်ရှိ အပိုဒ်(၂၅)အား ပယ်ဖျက်၍ **စာချုပ်အတည်ဖြစ်ခြင်း** အပိုဒ်(၂၃)အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးရမည်-

**စာချုပ်အတည်ဖြစ်ခြင်း**

၂၃။ ဤပြင်ဆင်ချက်သဘောတူစာချုပ်သည် **"အငှားချထားသူ"** နှင့် **"အငှားချထားခြင်းခံရသူ"** တို့ လက်မှတ် ရေးထိုးပြီးသည့် နေ့မှစ၍ အတည်ဖြစ်သည်။

<u>ကန့်သတ်</u>

၂၂။ **မူလစာချုပ်၏ စာချုပ်ပြင်ဆင်ခြင်း** ခေါင်းစဉ်ရှိ အပိုဒ်(၂၆)နှင့် အပိုဒ်(၂၇)တို့အား ပယ်ဖျက်၍ အပိုဒ်(၂၄)နှင့် အပိုဒ်(၂၅)တို့အဖြစ် အောက်ပါစာပိုဒ်များဖြင့် အစားထိုးပြင်ဆင်ရမည်-

**စာချုပ်ပြင်ဆင်ခြင်း**

၂၄။ ဤ **ပြင်ဆင်ချက်သဘောတူစာချုပ်**ပါ စည်းကမ်းများကို ပြင်ဆင်ခြင်း၊ပြောင်းလဲခြင်းနှင့် ထပ်မံဖြည့်စွက်ခြင်း ပြုလုပ်လိုပါက **"အငှားချထားသူ"** နှင့် **"အငှားချထားခြင်းခံရသူ"** တို့၏ နှစ်ဦးနှစ်ဖက် တရားဝင်စာဖြင့် သဘောတူညီချက်နှင့် **စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေး နှင့် ဘဏ္ဍာရေးဆိုင်ရာကော်မတီအစည်းအဝေး** သို့ တင်ပြ၍ အတည် ပြုချက်ရယူဆောင်ရွက်နိုင်သည်။

၂၅။ **"အငှားချထားခြင်းခံရသူ"** မှ စက်ရုံ ငှားရမ်းရာတွင် စီးပွားရေးအရ တွက်ချေကိုက်မှု မရှိခြင်း၊ အခြားသော အဆင်မပြေမှုများရှိခြင်းကြောင့် နှစ်ဦးနှစ်ဖက် ပြန်လည်ညှိနှိုင်း ဆွေးနွေးရန် (၃)လကြိုတင် အကြောင်းကြားရမည်။ သို့ရာတွင် ယင်းဆွေးနွေးသည့် အချိန်ကာလမှစ၍ နောင်ထပ်မံငှားရမ်းသူ ရရှိသည့်အချိန်ကာလအထိ လက်ရှိငှားရမ်း ခွင့်ရရှိသူမှ စက်ရုံနှင့်ပတ်သက်သည့် စက်ရုံငှားရမ်းခ ၊ ဝန်ထမ်းလစာ နှင့် စရိတ်များ ၊ ပင်စင်ထည့်ဝင်ကြေးများ ၊ အခြားစရိတ်များအားလုံးကို ကျခံဆောင်ရွက် ပေးရမည်။

၂၃။ **မူလစာချုပ်၏ စာချုပ်ရပ်စဲခြင်း** ခေါင်းစဉ်ရှိ အပိုဒ်(၂၈)အား အပိုဒ်(၂၆)အဖြစ် ဖြည့်စွက်ပြင်ဆင်ပြီး အပိုဒ်(၂၉)နှင့် အပိုဒ်(၃၀) တို့အား အပိုဒ်(၂၇) နှင့် အပိုဒ်(၂၈)တို့အဖြစ် ပြင်ဆင်လိုက်သည် -

**စာချုပ်ရပ်စဲခြင်း**

၂၆။ စာချုပ်ရပ်စဲခြင်းနှင့် ပတ်သက်၍ အောက်ပါ အကြောင်းအရပ်များ တစ်ခုခု ဖြစ်ပေါ်လာပါက စာချုပ်ကို ရပ်စဲနိုင်သည်-

(က) မလွန်ဆန်နိုင်သောဖြစ်ရပ်များကြောင့် ပျက်စီးဆုံးရှုံးသွား၍ **"အငှားချထားခြင်းခံရသူ"** အနေဖြင့် လုပ်ငန်း ဆက်လက်ဆောင်ရွက်ရန်မဖြစ်နိုင်တော့ခြင်း၊

(ခ) စာချုပ်ပါ စည်းကမ်းချက် တစ်ရပ်ရပ်ကို **"အငှားချထားခြင်းခံရသူ"** မှ ခိုင်လုံသော ရည်ရွယ်ချက်ဖြင့် ဖောက်ဖျက်ကျူးလွန်ခြင်း ၊

(ဂ) နိုင်ငံတော်၏ တည်ဆဲဥပဒေ တစ်ရပ်ရပ်ကို **"အငှားချထားခြင်းခံရသူ"**မှ ဖောက်ဖျက် ကျူးလွန်ခြင်း၊

(ဃ) **"အငှားချထားခြင်းခံရသူ"** က လူမွဲအဖြစ် ခံယူသွားခြင်း၊

(င) စာချုပ်သက်တမ်းကုန်ဆုံးခြင်း၊

၂၄။ **မူလစာချုပ်၏ ပြန်လည်ဝင်ရောက်ပိုင်ခွင့်** ခေါင်းစဉ်ရှိ အပိုဒ်(၃၁)ကို ပယ်ဖျက်၍ အပိုဒ်(၂၉) အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည် -

**ပြန်လည်ဝင်ရောက်ပိုင်ခွင့်**

၂၉။ "**အငှားချထားခြင်းခံရသူ**" သည် စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် (သို့) လိုက်နာရန် ပျက်ကွက်ခြင်းကြောင့် "**အငှားချထားသူ**"က ယင်းကဲ့သို့ ပျက်ကွက်မှုများကို ပြုပြင်ရန် (သို့) လိုက်နာရန် "**အငှားချထားခြင်းခံရသူ**" သို့ အကြောင်းကြားစာ ပေးပို့ပြီးနောက် အကြောင်းကြားစာပါ ကာလအတွင်း လိုက်နာမှုမရှိပါက သက်ဆိုင်ရာ လုပ်ထုံးလုပ်နည်းများနှင့်အညီ "**အငှားချထားသူ**"သည် အငှားချထားသည့် စက်ရုံ၊ မြေ၊ အဆောက်အဦ ၊ စက်နှင့်စက်ပစ္စည်းများကို ပြန်လည်ဝင်ရောက် လက်ဝယ်ရယူ ခွင့်ရှိသည်။ သို့ရာတွင် ယင်းသို့ ဝင်ရောက်၍ လက်ရောက်ရယူခြင်းသည် "**အငှားချထားသူ**" က "**အငှားချထားခြင်းခံရသူ**"ထံမှ ရရန်ရှိသော ငှားရမ်းခ (သို့) ပျက်စီးဆုံးရှုံးမှုအတွက် လျော်ကြေးတောင်း ဆိုခွင့်ကို ထိခိုက်ခြင်းမရှိစေရ။

၂၅။ **မူလစာချုပ်**၏ အပိုဒ်(၃၂)နှင့် အပိုဒ်(၃၃) တို့အားပယ်ဖျက်၍ အောက်ပါစာပိုဒ်(၃၀)၊(၃၁) အဖြစ် အစားထိုးပြင်ဆင်ရမည်ဖြစ်ပြီး ယင်းစာပိုဒ်များ၏ နောက်တွင် အောက်ပါအပိုဒ်(၃၂)၊ (၃၃) တို့အား ထပ်မံဖြည့်စွက်ရမည်-

၃၀။ ဤပြင်ဆင်ချက် သဘောတူစာချုပ်တွင်ပါရှိသော မြေပုံနှင့် နောက်ဆက်တွဲများသည် ဤစာချုပ် ၏ တစ်စိတ်တစ်ဒေသဖြစ်သည်။

၃၁။ ဤပြင်ဆင်ချက် သဘောတူစာချုပ်သည် နိုင်ငံတော်မူဝါဒအရ ပြင်ဆင်ရန် လိုအပ်ပါက နှစ်ဦး နှစ်ဖက် ညှိနှိုင်းပြင်ဆင်ချုပ်ဆိုနိုင်သည်။

၃၂။ ဤပြင်ဆင်ချက် သဘောတူစာချုပ်ပါ စည်းကမ်းချက်များမှအပ မူလစာချုပ်ပါ ကျန် စည်းကမ်းချက်များမှာ ပြောင်းလဲမှုမရှိဘဲ ဆက်လက်၍ အကျိုးသက်ရောက်မှုရှိစေရမည်။

၃၃။ ဤပြင်ဆင်ချက် သဘောတူစာချုပ်တွင်ပါရှိသော မြေပုံနှင့် နောက်ဆက်တွဲများသည် မူလ စာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်သည်။

၂၆။ ဤပြင်ဆင်ချက် သဘောတူစာချုပ်အား သဘောတူလက်ခံပါသဖြင့် ၂၀၁၅ ခုနှစ် လ( )ရက်နေ့တွင် **"အငှားချထားသူ"** နှင့် **"အငှားချထားခြင်းခံရသူ"** တို့ အောက်ပါအသိသက်သေများ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးချုပ်ဆိုကြပါသည် -

| | |
|---|---|
| **အငှားချထားသူ(ကိုယ်စား)** | **အငှားချထားခြင်းခံရသူ(ကိုယ်စား)** |
| (မြန်မာ့ဆေးဝါးလုပ်ငန်း ) | Shwe Mawlamyine Beverage Enterprise co.,Ltd |
| | (ယခင် Mandalay Golden Friend Mining Co.,Ltd) |
| သန့်စင် | ဇော်ဝင်း |
| ဦးဆောင်ညွှန်ကြားရေးမှူး | အုပ်ချုပ်မှုဒါရိုက်တာ |
| | ၉/မရမ(နိုင်)၀၀၀၆၂၄ |

<u>အသိသက်သေများ</u>

| | |
|---|---|
| ဒေါက်တာတိုးအောင် | နေမျိုးအောင် |
| ညွှန်ကြားရေးမှူး | ဒါရိုက်တာ |
| စီမံရေးဌာန | ၅/ပလန(နိုင်)၀၃၅၄၈၉ |
| စိုးစိုးအေး | ရှီကျီ(ခ)ကျော်ကျော် |
| ညွှန်ကြားရေးမှူး | ဒါရိုက်တာ |
| ထုတ်လုပ်ရေးဌာန | ၉/အမရ(နိုင်)၀၀၀၄၀၆ |

ခင်မြင့်သီ
ညွှန်ကြားရေးမှူး
ဘဏ္ဍာရေးဌာန

ဇင်လှိုင်
ဒါရိုက်တာ
၉/မရမ(နိုင်)၀၉၁၆၀၁

ခင်ဇော်ဝင်း
ညွှန်ကြားရေးမှူး
ရောင်းချဖြန့်ဖြူးရေးဌာန

ခင်အောင်
ဒါရိုက်တာ
၁၂/စခန(နိုင်)၀၆၄၂၈၆

စိုးသန်း
ညွှန်ကြားရေးမှူး
အုပ်ချုပ်ရေးဌာန

ဦးကျော်စိုး
အထွေထွေမန်နေဂျာ
မြင်းနှင့်သိုးမွေးမြူရေးစခန်း(ရန်ပယ်)

ကန့်သတ်

မော်လမြိုင်အမှတ်(၄) အရက်ချက်စက်ရုံနှင့်ရေခဲစက်ဝန်ထမ်းအိမ်ရာ



နောက်ဆက်တွဲ
(က)(၃)

မော်လမြိုင်အမှတ်(၄)အရက်ချက်စက်ရုံ၏ ကွန်းရပ်၊ ဇင်ယော်လမ်းရှိ ရေခဲစက်ဝန်ထမ်းအိမ်ရာ၊ မြေအဆောက်အဦများ




ညွှန်ပြချက်

(၂)ခန်းတွဲဝန်ထမ်းအိမ်ရာများ

(၆)ခန်းတွဲဝန်ထမ်းအိမ်ရာများ

ရေစက်ခန်း

ရေတွင်း

